

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပုံစံ(မနသ-၂)
၁၆၅၃-၀
၁၂-၁၀-၂၀၀၆

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-......၆၇၂......./ ၂၀၀၆။

၂၀၀၆ ခုနှစ်၊အောက်တိုဘာ လ ၁၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ညွှန်ကြားရေးမှူးချုပ်၊စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန။

(ခ) အဘအမည် ......... အမှတ်(၁)စက်မှုဝန်ကြီးဌာန။

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် .........

(ဃ) နေရပ်လိပ်စာ (၁၉၂)၊ကမ္ဘာအေးဘုရားလမ်း၊ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် (Mould & Die Industry Co.,Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား မိုနှင့်ဒိုင်ပုံစံအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ်(၁၂၆)၊တွင်းသင်းတိုက်ဝန်ဦးထွန်းညိုလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊စက်မှုဇုန်(၃)၊ရွှေပြည်သာမြို့နယ်။ ရန်ကုန်တိုင်း၊

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၁၂၈၅.၇၄၄)သန်း၊ (ကျပ်သန်းပေါင်းတစ်ထောင်နှစ်ရာရှစ်ဆယ့်ငါးနှင့်ခုနှစ်သိန်း၊လေးသောင်းလေးထောင်ခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာ အမှတ်၊ ၁၁ /၂၀၀၆ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၈ ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၆ ရက်
(၂၀၀၆ ခုနှစ်၊ အောက်တိုဘာလ ၁၂ ရက်)

၁။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန နှင့် Fair Sun Industry Co.,Ltd. တို့ ဖက်စပ်တည်ထောင်သည့် မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Mould & Die Industry Co., Ltd.) သည် ဒေါက်တာဖေခင်အမည်ဖြင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ တွင်းသင်းတိုက်ဝန် ဦးထွန်းညိုလမ်း မြေကွက်အမှတ် (၁၂၆)ရှိ မြေ (၁.၈၆၈) ဧက (၇၅၅၉.၅၃ စတုရန်းမီတာ ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှားရမ်း၍ မိုနှင့်ဒိုင်ပုံစံအမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၇-၇-၂၀၀၆)နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂/၂၀၀၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ သဘောတူသဖြင့် (၉-၈-၂၀၀၆) နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၇/၂၀၀၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေးမှ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ ( ၂၁-၉ -၂၀၀၆)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏(၃၃/၂၀၀၆)အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅) ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Mould & Die Industry Co., Ltd) အား မိုနှင့်ဒိုင် ပုံစံအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၆၇၂ /၂၀၀၆ ကို ထုတ်ပေးလိုက်သည်။

၂။ မိုနှင့်ဒိုင်စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Mould & Die Industry Co.,Ltd) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Mould & Die Industry Co.,Ltd) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များအဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ မိုနှင့်ဒိုင်စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်(Mould & Die Industry Co.,Ltd)သည် နှစ်စဉ်ပြည်ပမှ ကုန်ကြမ်းများ ဝယ်ယူရာတွင် Export Earning နှင့်သာဝယ်ယူရမည်။

၅။ မိုနှင့်ဒိုင်စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Mould & Die Industry Co.,Ltd)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Mould & Die Industry Co.,Ltd) ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ မှတ်ပုံတင်နိုင်ရန်အတွက် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ဖက်စပ်ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅)စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာနက အတည်ပြုပြီးဖြစ်သည့် ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ ( Memorandum and Articles of Association)

လျှို့ဝှက်

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေနှင့်အဆောက်အဦ အငှားချထားသူ ဒေါက်တာဖေခင် နှင့် အငှားချထားခြင်းခံရသူ မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Mould & Die Industry Co.,Ltd) တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ(၅)စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၈။ အမှတ်(၁) စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန နှင့် Fair Sun Industry Co.,Ltd. တို့သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီး ဖြစ်သော မိုနှင့်ဒိုင်ပုံစံအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဖက်စပ်သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၉။ ဖက်စပ်ကုမ္ပဏီ၏ အသားတင်အမြတ်ကို အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနမှ (၃၅%) နှင့် Fair Sun Industry Co.,Ltd. မှ (၆၅%) ခွဲဝေခံစားရမည်။

၁၀။ ဖက်စပ်စာချုပ်သက်တမ်းမှာ ကနဦး (၁၀)နှစ်ဖြစ်ပြီး နောက်ထပ် (၅)နှစ် (၃)ကြိမ် တိုးမြှင့်ခွင့်အတွက် ကော်မရှင်မှတဆင့် အထက်အဖွဲ့အစည်း၏ အတည်ပြုချက်ကို ရယူရမည်။

၁၁။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးချမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၂။ မိုနှင့်ဒိုင်စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်(Mould & Die Industry Co.,Ltd) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

၁၃။ မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Mould & Die Industry Co.,Ltd) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်လာစေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၄။ မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Mould & Die Industry Co.,Ltd) သည် ပူးတွဲပါ ကနဦးလုပ်ငန်းဆောင်ရွက်မှုအစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/အောက်တိုဘာလ)မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း စီးပွားဖြစ်စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏အဖွဲ့အစည်း၏ နေရပ်လိပ်စာ(ကုမ္ပဏီ၏ရုံးခန်းလိပ်စာနှင့်တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက်တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၆။ မိုနှင့်ဒိုင်စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Mould & Die Industry Co.,Ltd) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် စက်ရုံပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၈။ ဤခွင့်ပြုမိန့်ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၆(က)/မ-၉၇၂/၂၀၀၆ ( ၁၆၅၃- င )

ရက်စွဲ၊ ၂၀၀၆ ခုနှစ်၊ အောက်တိုဘာလ ၁၂ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ အမှတ်(၁) စက်မှုဝန်ကြီးဌာန။

၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၆။ အလုပ်သမား ဝန်ကြီးဌာန။

၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၈။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။

၉။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၀။ ဆောက်လုပ်ရေးဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ အမှတ်(၂)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၆။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၇။ ဒါရိုက်တာ၊ မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Mould & Die Industry Co.,Ltd)

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/မ-၁၄၃၀/၂၀၀၆ ( ၁၀၆၂ )။
ရက်စွဲ ၊ ၂၀၀၆ ခုနှစ် ၊ စက်တင်ဘာလ ၁၄ ရက်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ အမှတ်(၁) စက်မှုဝန်ကြီးဌာန ၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန နှင့် Fair Sun Industry Co.,Ltd တို့ ဖက်စပ်တည်ထောင်သည့် မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီ လီမိတက်မှ မိုနှင့်ဒိုင် ပုံစံအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။

၁။ အမှတ်(၁) စက်မှုဝန်ကြီးဌာန ၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန နှင့် Fair Sun Industry Co., Ltd တို့ ဖက်စပ်တည်ထောင်သည့် မိုနှင့် ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် သည် ဒေါက်တာဖေခင် အမည်ဖြင့် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံ မှ အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း ရွှေပြည်သာ မြို့နယ် ၊ စက်မှုဇုန် (၃) ၊ မြေတိုင်းရပ်ကွက် အမှတ် (၆၄)၊ တွင်းသင်းတိုက်ဝန် ဦးထွန်းညိုလမ်း ၊ မြေကွက်အမှတ် (၁၂၆) ရှိ မြေ (၁.၈၆၈) ဧက (၇၅၅၉.၅၃ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ ကို ငှားရမ်း၍ မိုနှင့်ဒိုင် ပုံစံ အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာ ပါသည်။ ယင်းအဆိုပြုချက်ကို (၇-၇-၂၀၀၆) နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂/၂၀၀၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ယင်းလုပ်ငန်းကိုဆောင်ရွက်ရန် သဘောတူသဖြင့် ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ (၉-၈-၂၀၀၆) နေ့တွင်ကျင်းပသည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၇/၂၀၀၆) အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) အမှတ် (၁) စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနနှင့် Fair Sun Industry Co., Ltd တို့ဖက်စပ်တည်ထောင်သည့်မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ မိုနှင့်ဒိုင်ပုံစံအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန်၊
(ခ ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေး လုပ်ငန်း စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုပါရန်၊
(ဂ ) ကုန်ကြမ်းကို Export Earning နှင့်ဝယ်ယူရန်၊
(ဃ) အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်၊

၂။ အထက်ပါ ဆုံးဖြတ်ချက်နှင့် အညီ အမှတ်(၁)စက်မှု ဝန်ကြီးဌာနမှ တင်ပြလာပါသဖြင့် အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြ ခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့် အတူ ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်၊ ဖက်စပ်လုပ်ငန်း သဘောတူစာချုပ်နှင့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် တို့ကို နောက်ဆက်တွဲ (၁) အဖြစ် တင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏနှင့် အချိုးအစားမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | မတည်ငွေရင်း (ကျပ်သန်း) | မတည်ငွေရင်း အချိုးအစား |
|---|---|---|
| (က)အမှတ်(၁)စက်မှု ဝန်ကြီးဌာန၊ (စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာန) | ၄၅၀.၀၀ | ၃၅% |
| (ခ)သာယာသော နေမင်းစက်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက်( Fair Sun Industry Co.,Ltd ) | ၈၃၅.၇၁ (US $ ၀.၃၆ သန်း အပါအဝင်) | ၆၅% |
| စုစုပေါင်း | ၁၂၈၅.၇၁ (US $ ၀.၃၆ သန်း အပါအဝင်) | ၁၀၀ % |

၄။ ယင်းတွင် စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနမှ စက်ပစ္စည်းကိရိယာ တန်ဖိုးကျပ်(၄၅၀.၀၀)သန်း ထည့်ဝင်မည်ဖြစ်ပြီး၊ Fair Sun Industry Co., Ltd မှ ငွေသားကျပ် (၁၂၇.၁၄) သန်း၊ အဆောက်အဦ (လျှပ်စစ် ပစ္စည်း တပ်ဆင် မွမ်းမံခြင်း ) တန်ဖိုး ကျပ် (၇၃.၇၁)သန်း၊ ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းတန်ဖိုး ကျပ် (၂.၃၁)သန်း၊ စက်ပစ္စည်း ကိရိယာတန်ဖိုး ကျပ် (၆၃၀.၃၉) သန်းနှင့် ကုန်ကြမ်းတန်ဖိုး ကျပ် (၂.၁၆) သန်း (အမေရိကန် ဒေါ်လာ ၀.၃၆ သန်း ) အသီးသီး ထည့်ဝင်ကြမည် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း အတွက် စက်ပစ္စည်းများကို အမှတ် (၁) စက်မှုဝန်ကြီးဌာန နှင့် Fair Sun Industry Co., Ltd တို့၏ အမည်များဖြင့် ပြည်ပမှ တင်သွင်းခဲ့ခြင်း ဖြစ်ပါသည်။

၆။ အမှတ်(၁)စက်မှု ဝန်ကြီးဌာန ၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနနှင့် Fair Sun Industry Co., Ltd တို့၏ ဖက်စပ်သဘောတူ စာချုပ်ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ဖက်စပ် ကုမ္ပဏီ၏ အသားတင် အမြတ်ကို အမှတ် (၁) စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန က (၃၅) ရာခိုင်နှုန်းနှင့် Fair Sun Industry Co., Ltd က (၆၅)ရာခိုင်နှုန်း ခွဲဝေရယူမည် ဖြစ်ပါသည်။

(ခ) ဖက်စပ် ကုမ္ပဏီအား ဒါရိုက်တာ (၅) ဦးဖြင့် ဖွဲ့စည်းရာတွင် အမှတ် (၁) စက်မှု ဝန်ကြီး ဌာနမှ ဒါရိုက်တာ (၂) ဦးနှင့် Fair Sun Industry Co., Ltd မှ ဒါရိုက်တာ(၃) ဦး ဖြင့် ဖွဲ့စည်းမည် ဖြစ်ပါသည်။ ဒါရိုက်တာအဖွဲ့၏ ဥက္ကဋ္ဌကို အမှတ် (၁) စက်မှုဝန်ကြီးဌာနမှ တစ်နှစ်လျှင် တစ်ကြိမ် ရွေးကောက် တင်မြှောက် ရမည် ဖြစ်ပါသည်။

(ဂ) ဖက်စပ် စာချုပ် သက်တမ်းမှာ ကနဦး (၁၀)နှစ် ဖြစ်ပြီး စာချုပ် သက်တမ်း ကို (၅) နှစ် (၃)ကြိမ် တိုးမြှင့်ခြင်း သည် ကော်မရှင်မှ တစ်ဆင့် အထက် အဖွဲ့အစည်း၏ အတည်ပြုချက် ရယူပြီးမှသာ အတည် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ မိုနှင့် ဒိုင် ပုံစံ အမျိုးမျိုးကို ပြည်ပသို့ (၁၀%) ပြည်တွင်းတွင် (၉၀%) ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ခုရေ) |
|---|---|---|
| ၁။ | Injection Mould | |
| | -Large Size(1200-2000 kgs) | ၃၀ |
| | -Medium Size(700-1200 Kgs) | ၅၂ |
| | -Small Size (200-700 Kgs) | ၉၁ |
| ၂။ | Metal Mould | |
| | -Large Size(200-500 kgs) | ၁၈၂ |
| | -Medium Size(100-200 Kgs) | ၁၈၂ |
| | -Small Size (50-100 Kgs) | ၇၂၈ |
| ၃။ | Forging Die | |
| | -Large Size(1000-1500 kgs) | ၃၆ |
| | -Medium Size(500-1000 Kgs) | ၇၃ |
| | -Small Size (300-500 Kgs) | ၆၁ |
| ၄။ | Press Die | |
| | -Large Size(750-1200 kgs) | ၄၉ |
| | -Medium Size(300-750 Kgs) | ၁၂၁ |
| | -Small Size (100-300 Kgs) | ၁၈၂ |

| | | |
|---|---|---|
| ၅။ | Others (Machineries Parts)<br>-Shock Absorber Housing<br>-Inlet Mani Fold<br>-Tapet | <br>၁၂၀၀<br>၉၀၀<br>၁၀၈၀၀ |

၈။ အဆိုပြုလုပ်ငန်း အတွက် ကုန်ကြမ်း ပစ္စည်းများကို နှစ်စဉ် ပြည်ပမှ တင်သွင်းရာတွင် အဓိကအားဖြင့် ထိုင်ဝမ်(တရုတ်)နိုင်ငံမှ တင်သွင်းမည် ဖြစ်ပြီး ဂျပန်နှင့် ကိုရီးယားနိုင်ငံများမှလည်း လိုအပ်သလို ဝယ်ယူ အသုံးပြုမည် ဖြစ်ကြောင်း၊ ပြည်ပမှ ကုန်ကြမ်းများ ဝယ်ယူရာတွင် တစ်နှစ်စာအတွက် တစ်ကြိမ်တည်း ဝယ်ယူမည် မဟုတ်ဘဲ နှစ်ကြိမ် (သို့မဟုတ် )သုံးကြိမ် ခွဲ၍ ဝယ်ယူတင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ကုန်သွယ်မှုမူဝါဒကောင်စီ၏လမ်းညွှန်ချက်နှင့်အညီကုန်ကြမ်းကို Export Earning နှင့်ဝယ်ယူတင်သွင်းစေမည်ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ (၄) နှစ်နှင့် (၄)လဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၃.၆၁) ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) ဝင်ငွေခွန် | ကျပ် | ၁၃၁.၉၉ သန်း |
| (ခ ) ကုန်သွယ်လုပ်ငန်းခွန် | အမေရိကန်ဒေါ်လာ | ၀.၀၁ သန်း |
| | ကျပ် | ၁၅၂.၉၄ သန်း |

၁၁။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၁၀၀)ဦးနှင့် ပြည်ပမှ အချိန်ပိုင်း ဝန်ထမ်း (၅) ဦးကို ခန့်ထားမည် ဖြစ်ပါသည်။

၁၂။ လျှပ်စစ်ဓါတ်အား (၁၀၀၀) ကီလိုဝပ်အား စီစဉ်ပေးနိုင်ပါကြောင်း လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ သဘောထား ပြန်ကြားလာပါသည်။

၁၃။ Fair Sun Industry Co.,Ltd မှ စက်ပစ္စည်းများ တင်သွင်းသည့် နည်းလမ်းမှာ ပို့ကုန်ရငွေအား လွှဲပြောင်း ရယူသော ငွေဖြင့် လျှောက်ထားခြင်း ဖြစ်ပါကြောင်း ကုန်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာနမှပြန်ကြားလာပါသည်။

၁၄။ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်။

(က) အဆိုပြုမြေကွက် (၁.၈၆၈) ဧက ကိုခြံစည်းရိုး ကာရံထားပြီး မြေပေါ်တွင် (၂၂၀′ x ၁၀၀′) Steel Structure တစ်ထပ်စက်ရုံ အဆောက်အဦ တစ်လုံးအပါအဝင် အဆောက်အဦ (၅) လုံး ဆောက်လုပ်ထားပါကြောင်း၊

(ခ) (၂၂၀´ x ၁၀၀´) ရှိ စက်ရုံ အဆောက်အဦတွင် မိုနှင့်ဒိုင် ထုတ်လုပ်သည့် စက်ပစ္စည်း ကိရိယာ (၃၇) မျိုးနှင့် Fair Sun Industry Co.,Ltd ၏ စက်ပစ္စည်း (၁၆)မျိုး စုစုပေါင်း (၅၃)မျိုး တပ်ဆင်ထားပြီး Fair Sun Mould & Die Industry အမည်ဖြင့် မိုနှင့်ဒိုင် ထုတ်လုပ်ခြင်း လုပ်ငန်းကို Test Run စမ်းသပ်ဆောင်ရွက်လျှက် ရှိပါကြောင်း၊

(ဂ) အဆိုပြုမြေကွက် တစ်ကွက်တည်း ပေါ်တွင် မူလ Fair Sun Industry Co.,Ltd ၏ မော်တော်ယာဉ် အပိုပစ္စည်း လုပ်ငန်းသာမက ၊ မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်၏ မိုနှင့်ဒိုင် အမျိုးမျိုး ထုတ်လုပ်သည့် လုပ်ငန်းပါ ပူးတွဲဆောင်ရွက်မည် ဖြစ်ကြောင်းနှင့် ယင်းလုပ်ငန်း (၂) မျိုးစလုံး၏ စက်ပစ္စည်းများကိုလည်း စက်ရုံ အဆောက်အဦ တစ်လုံးတည်းတွင်ပင် ပူးတွဲ တပ်ဆင်ထားသည်ကို တွေ့ရှိရပါကြောင်း၊

(ဃ) မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်သည် "ဌာနနှင့် ကုမ္ပဏီတို့" ပူးပေါင်းဆောင်ရွက်မည့် "ဖက်စပ်" ကုမ္ပဏီ ဖြစ်ကြောင်း တွေ့ရှိရပါ၍ ကုမ္ပဏီ (၂) ခု၏ လုပ်ငန်းများ ပူးတွဲ ဆောင်ရွက် ခြင်းမှာ လုပ်ငန်း သဘာဝအရ သင့်လျော်မှုရှိ-မရှိ၊ အမှတ်(၁) စက်မှု ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်ကို ရယူသင့်ပါကြောင်း၊

၁၅။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ သဘောထား ပြန်ကြားချက်အပေါ် သင့်လျော်မှု ရှိပါကြောင်းနှင့် ကန့်ကွက်ရန် မရှိပါကြောင်း အမှတ်(၁) စက်မှုဝန်ကြီးဌာနမှ အောက်ပါအတိုင်း ပြန်ကြားထားပါသည်။

(က) အမှတ် (၁) စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနနှင့် Fair Sun Industry Co., Ltd တို့မှ ဝယ်ယူတင်သွင်းသော စက်ပစ္စည်းများဖြင့် Mould And Die Industry Co., Ltd ၏ လုပ်ငန်းများ ဆောင်ရွက်ရန် ပြည့်စုံမှု မရှိခြင်း၊

(ခ) Mould And Die Industry Co., Ltd ၏ လုပ်ငန်းများကို အားဖြည့်ရန်အတွက် Fair Sun Industry Co., Ltd ပိုင် စက်ပစ္စည်းများကို မိုနှင့်ဒိုင်စက်များနှင့် နီးစပ်သောနေရာတွင် သီးခြားခွဲခြား သတ်မှတ်၍ စက်များတပ်ဆင်ထားရှိခြင်း၊

(ဂ) လက်တွေ့လုပ်ငန်း ဆောင်ရွက်ရာတွင် Mould And Die Industry Co., Ltd သည် သီးခြားလုပ်ငန်း အနေဖြင့်ရပ်တည်၍ ဒါရိုက်တာအဖွဲ့၏ ဦးဆောင်လမ်းညွှန်မှုဖြင့် ဝန်ထမ်းရေးရာ ကိစ္စရပ်များ ၊ စက်ကိရိယာ အသုံးပြုခြင်း ကိစ္စရပ်များ၊ ငွေရေးကြေးရေး ကိစ္စရပ်များနှင့် ကုန်ပစ္စည်း ထုတ်လုပ်မှု ကိစ္စရပ်များကို သီးခြားဆောင်ရွက်သွားမည် ဖြစ်ခြင်း၊

၁၆။ ယင်းလုပ်ငန်းအဆိုပြုတင်ပြစဉ်ကငွေကြေးအထောက်အထား အဖြစ် မြန်မာ့ စီးပွားရေး ဘဏ်ရှိ ဒေါက်တာဖေခင် အမည်ဖြင့် (၁၃-၁-၂၀၀၆) နေ့ ငွေလက်ကျန် ကျပ် (၄၀.၀၄) သန်းနှင့် Fair Sun Industry Co.,Ltd အမည်ဖြင့် (၈-၆-၂၀၀၆) နေ့ ငွေလက်ကျန် ကျပ် (၇၁.၄၉) သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၁၁.၅၃) သန်း တင်ပြထားပါသည်။

နိုင်ငံခြားငွေ အထောက်အထား အဖြစ် မြန်မာနိုင်ငံခြား ကုန်သွယ်မှုဘဏ် ရှိ Fair Sun Industry Co.,Ltd ၏ (၁၃-၁-၂၀၀၆) နေ့ ငွေလက်ကျန် အမေရိကန်ဒေါ်လာ (၁.၃၇) သိန်း ကို တင်ပြထားပါသည်။

၁၇။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပြည်ပတင်ပို့မှု ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှုများကို ညွှန်ကြားချက် နှင့် အညီလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိများ ပြုထားပါသည်။

၁၈။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေး လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။

၁၉။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) အမှတ် (၁) စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနနှင့် Fair Sun Industry Co., Ltd တို့ ဖက်စပ် တည်ထောင်သည့် မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ မိုနှင့်ဒိုင် ပုံစံအမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် သဘောတူ-မတူ။

(ခ) လုပ်ငန်း ဆောင်ရွက်ရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေး လုပ်ငန်း စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုရန် သဘောတူ-မတူ။

၂၀။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်</u>
အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဦးသောင်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဝန်ကြီး၊သိပ္ပံနှင့်နည်းပညာ ဝန်ကြီးဌာန။
ဝန်ကြီး၊ အလုပ်သမားဝန်ကြီးဌာန။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။</u>

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် | ၁။ ဦးသိုက်ထွန်း | -အမှတ်(၁၉၂) ကမ္ဘာအေးဘုရားလမ်း ၊ ဗဟန်း မြို့နယ် ၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးအယ်(လ်)ဇော်ရှမ်း | -အမှတ်(၁၉၂) ကမ္ဘာအေးဘုရားလမ်း ၊ ဗဟန်း မြို့နယ် ၊ ရန်ကုန်မြို့။ |
| | | ၃။ ဒေါက်တာဖေခင် | -အမှတ်(၁၀၉)၊ ဝေဇယန္တာလမ်း၊ (၃)ရပ်ကွက်၊ ဒဂုံမြို့သစ်အရှေ့ပိုင်း မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဦးသိန်းငွေ | -အမှတ်(၅၁) ၊ ပန်းဝါလမ်း ၊ (၁၁)ရပ်ကွက်၊ ဒဂုံမြို့သစ်အရှေ့ပိုင်း မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၅။ ဒေါ်သီရိမွန် | -အမှတ်(၁၀) ၊ ဥသျှဖုရားလမ်း ၊ ဆရာစံတောင် ရပ်ကွက် ၊ ပန်းဘဲတန်း မြို့နယ် ၊ ရန်ကုန်မြို့။ |

၁။ ကုမ္ပဏီ၏တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၁၀၉၁၄၉၆၁၀၉၆၆၊ ဖက် (စ်) ၆၁၀၉၆၆

၂။ ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ - အမှတ်(၁၀၉)၊ ဝေဇယန္တာလမ်း၊ (၃) ရပ်ကွက်၊ ဒဂုံမြို့သစ်အရှေ့ပိုင်း မြို့နယ်၊ ရန်ကုန်မြို့။

၃။ ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါက်တာဖေခင် (မန်နေဂျင်းဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - မိုနှင့်ဒိုင်ပုံစံအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်နေ့စွဲ - လျှောက်ထားဆဲ

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့်ငွေစာရင်းအမှတ် - မြန်မာ့စီးပွားရေးဘဏ်၊ဘဏ်စာရင်းအမှတ်- F0042 , F-0043
မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်၊
ဘဏ်စာရင်းအမှတ်-၉၇၈၅၉,၉၈၀၂၅

M & D

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၆ ခုနှစ်၊ ဩဂုတ်လ(၉)ရက်နေ့တွင်ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၇/၂၀၀၆) မှတ်တမ်းကောက်နှုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၀-၁ | ၂၉၈ | အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co., Ltd တို့ ဖက်စပ်တည်ထောင်ထားသည့် မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ မိုနှင့်ဒိုင်ပုံစံအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုချက်တင်ပြခြင်းကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်။<br>(က) အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန နှင့် Fair Sun Industry Co.,Ltd. တို့ ဖက်စပ်တည်ထောင်သည့် မိုနှင့်ဒိုင် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ မိုနှင့်ဒိုင်ပုံစံအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန်၊<br>(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုရန်၊<br>(ဂ) ကုန်ကြမ်းကို Export Earning နှင့် ဝယ်ယူရန်၊<br>(ဃ) အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်<br>အမှတ်(၁)စက်မှုဝန်ကြီးဌာန<br>ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
စာအမှတ် ......
ရက်စွဲ ၁၄-၈-၀၆
ကုန်သွယ်မှုမူဝါဒကောင်စီ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၉ / ၁ စ(၁)/ ၂၀၀၆ ( ၂၆၈၈ )
ရက် စွဲ ၊ ၂၀၀၆ ခုနှစ်၊ ဇူလိုင် လ ၄ ရက်

အကြောင်းအရာ။ **အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co., Ltd. တို့ ဖက်စပ်တည်ထောင်သည့် မိုနှင့်ဒိုင် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၆ခုနှစ် ဇွန် လ ၂၉ ရက်စွဲပါစာအမှတ်၊ ရက-၁/ မ-၉၇၂ / ၂၀၀၆(နပတ-၃၉၆)

၁။ မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်(Mould And Die Industry Co., Ltd.)မှ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် ရွှေပြည်သာစက်မှုဇုန်ရှိမြေပေါ်တွင် Fair Sun Industry Co., Ltd. မော်တော်ယာဉ်အပိုပစ္စည်းထုတ်လုပ်ငန်းနှင့် မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်ငန်းများ ပူးတွဲဆောင်ရွက်မှုနှင့် စပ်လျဉ်း၍ လုပ်ငန်းသဘောသဘာဝအရ သင့်လျော်မှုရှိ မရှိ အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါအကြောင်းအချက်များအရ သင့်လျော်မှုရှိပါကြောင်း တွေ့ရှိရပါသည်-

(က) အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co., Ltd. တို့မှ ဝယ်ယူတင်သွင်းသောစက်ပစ္စည်းများဖြင့် Mould And Die Industry Co., Ltd. ၏ လုပ်ငန်းများဆောင်ရွက်ရန် ပြည့်စုံမှုမရှိခြင်း၊

(ခ) Mould And Die Industry Co., Ltd. ၏လုပ်ငန်းများကိုအားဖြည့်ရန်အတွက် Fair Sun Industry Co., Ltd. ပိုင် စက်ပစ္စည်းများကို မိုနှင့်ဒိုင်စက်များနှင့် နီးစပ်သောနေရာတွင် သီးခြားခွဲခြားသတ်မှတ်၍ စက်များတပ်ဆင်ထားရှိခြင်း၊

(ဂ) လက်တွေ့လုပ်ငန်းဆောင်ရွက်ရာတွင် Mould And Die Industry Co., Ltd. သည် သီးခြားလုပ်ငန်းအနေဖြင့်ရပ်တည်၍ ဒါရိုက်တာအဖွဲ့၏ဦးဆောင်လမ်းညွှန်မှုဖြင့် ဝန်ထမ်းရေးရာကိစ္စရပ်များ၊ စက်ကိရိယာအသုံးပြုခြင်းကိစ္စရပ်များ၊ ငွေရေးကြေးရေးကိစ္စရပ်များနှင့် ကုန်ပစ္စည်းထုတ်လုပ်မှုကိစ္စရပ်များကို သီးခြားဆောင်ရွက်သွားမည်ဖြစ်ခြင်း။

၃။ သို့ဖြစ်ပါ၍ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co., Ltd. တို့ ဖက်စပ်တည်ထောင်မည့် Mould And Die Industry Co., Ltd. မှ မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းအပေါ် အမှတ်(၁)စက်မှုဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

၆/၂/၂၀၀၆

ဝန်ကြီး ( )
မြင့်ဆွေ၊ ရုံးအဖွဲ့မှူး

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**

စာအမှတ်၊ ၆၆/ခွဲ-၃ /MIC / ၂၀၀၆ (စီ ၂၁၆၃)
ရက် စွဲ၊ ၂၀၀၆ခုနှစ် ဇွန်လ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၆ခုနှစ် မတ်လ (၃)ရက် နေ့စွဲပါ စာအမှတ် ၊ ၇က-၆(က)/မ-၉၇၂/၂၀၀၆ (အလပ -၀၁၇)

၁။ မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃) မြေတိုင်း ရပ်ကွက်အမှတ်(၆၄)၊ တွင်းသင်းတိုက်ဝန်ဦးထွန်းညိုလမ်း၊ မြေကွက်အမှတ်(၁၂၆)ရှိမြေနှင့် ယင်းမြေပေါ်ရှိ"အဆောက်အဦကိုငှားရမ်း၍"မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာ ဖြင့် သဘောထားမှတ်ချက် တောင်းခံလာပါသဖြင့် အဆိုပြုမြေကွက်အား စိစစ်ရာ ၁.၈၆၈ ဧက (၂၂၁/၃၀၂ ပေ × ၂၆၃/၃၈၈ ပေ) အကျယ်ရှိမြေကွက်အား ခြံစည်းရိုး ကာရံထားပြီးမြေပေါ်တွင် (၂၂၀ ပေ × ၁၀၀ ပေ) အကျယ်ရှိ Steel Structure တစ်ထပ်စက်ရုံ အဆောက်အဦနှင့် တွဲလျက် (၃၀ ပေ × ၁၀၀ ပေ) ရှိ RC နှစ်ထပ်ရုံးခန်း အဆောက်အဦ (၁)လုံး (၄၀ပေ × ၁၀၀ပေ) ရှိ Steel Structure တစ်ထပ်စတိုအဆောက်အဦ (၁) လုံး၊ စက်ရုံဘေးတွင် (၁၀၀ပေ × ၁၀၀ပေ) ရှိ Steel Structure အမိုးမိုးပြီး၊ အကာမရှိတစ်ထပ်အဆောက်အဦ (၁)လုံး (၅၀ပေ × ၆၀ပေ) ရှိ RC နှစ်ထပ် ဝန်ထမ်းအိမ်ရာအဆောက်အဦ(၁)လုံးတို့ဆောက်လုပ်ထားပါသည်။ (အဆိုပြုမြေကွက်နှင့်ပတ်ဝန်းကျင် အခြေအနေပြ မြေပုံကြမ်းပူးတွဲတင်ပြအပ်ပါသည်။)

၂။ အဆိုပါအဆောက်အဦများတွင် အောက်ဖော်ပြပါလုပ်ငန်းများဆောင်ရွက်လျက်ရှိပါသည် -

(က) (၂၂၀ပေ×၁၀၀ပေ)ရှိ စက်ရုံအဆောက်အဦတွင်မိုနှင့်ဒိုင်ထုတ်လုပ်သည့် စက်ပစ္စည်း ကရိယာ(၃၇)မျိုးနှင့် Fair Sun Industry Co.,Ltd ၏ စက်ပစ္စည်း(၁၆)မျိုး( စုစုပေါင်း ၅၃ မျိုး) တပ်ဆင်ထားပြီး "Fair Sun Mould & Die Industry " အမည်ဖြင့် မိုနှင့်ဒိုင် ထုတ်လုပ်ခြင်းလုပ်ငန်းကို Test Run စမ်းသပ်ဆောင်ရွက်လျက်ရှိပါသည်။ (ကုမ္ပဏီမှ တင်ပြသော စက်ရုံအတွင်း စက်ပစ္စည်းတပ်ဆင်ထားမှုပုံစံနှင့် စက်ပစ္စည်း စာရင်း ကို ပူးတွဲတင်ပြအပ်ပါသည်။)

(ခ ) ယင်းစက်ရုံဘေးရှိ (၁၀၀ပေ× ၁၀၀ပေ) Steel Structure တစ်ထပ်အဆောက်အဦ တွင် အလူမီနီယမ်နှင့် သံရည်ကျိုစက်ပစ္စည်းကရိယာများတပ်ဆင်ထားပြီး Fair Sun Industry Co.,Ltd အလူမီနီယမ်ကျိုခြင်းဆောင်ရွက်လျက်ရှိပါသည် ။

၃။ Fair Sun Industry Co.,Ltd သည် ၂၀၀၁ခုနှစ်က အဆိုပြုမြေနေရာတွင် "မော်တော်ယာဉ်အပိုပစ္စည်း၊ဆိုင်ကယ်/စက်ဘီးအပိုပစ္စည်းနှင့်ပရိဘောဂအရံပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း"ဆောင်ရွက်ခွင့်ပြုပါရန်လုပ်ငန်းအဆိုပြုချက်တင်ပြခဲ့ရာမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သတ်မှတ်ချက်နှင့်မကိုက်ညီ၍ လက်မခံခဲ့ကြောင်းသိရှိရပါသည်။ ယခုအခါ Fair Sun Industry Co., Ltd သည် ယင်းမြေကွက်ပေါ်တွင် ၂၀၀၃ခုနှစ်မှစ၍ အဆိုပါ မော်တော်ယာဉ် အပိုပစ္စည်း ထုတ်လုပ်သည့်လုပ်ငန်းကို ကုမ္ပဏီမှတ်ပုံတင်အမှတ် -၁၆၇/၂၀၀၀-၂၀၀၁ (၂. ၅. ၂၀၀၁)၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းမှတ်ပုံတင်လက်မှတ် - ၇က/ ကြီး/ ၁၄၃၉ (၂၈. ၇. ၂၀၀၃) နှင့် ထုတ်ကုန်သွင်းကုန်လုပ်ငန်းရှင်မှတ်ပုံတင်အမှတ် - ၁၃၃၅၅ (၁၆. ၈. ၂၀၀၀) တို့အရ လုပ်ကိုင် ဆောင်ရွက်လျက်ရှိပါသည်။

၄။ စိစစ်တွေ့ရှိချက်များအရ အဆိုပြု မြေကွက်တစ်ကွက်တည်းပေါ်တွင် မူလ Fair Sun Industry Co.,Ltd ၏ မော်တော်ယာဉ် အပိုပစ္စည်းလုပ်ငန်းသာမက ၊ မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်၏ မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်သည့် လုပ်ငန်းပါပူးတွဲ ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် ယင်းလုပ်ငန်း (၂)မျိုးစလုံး၏ စက်ပစ္စည်းများကိုလည်း စက်ရုံအဆောက်အဦ (၁)လုံး တည်းတွင်ပင်ပူးတွဲတပ်ဆင်ထားပါကြောင်း တွေ့ရှိပါသည် ။

၅။ မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည်အမှတ် (၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co.,Ltd တို့ပူးပေါင်းဆောင်ရွက်မည့်ဖက်စပ်ကုမ္ပဏီဖြစ်ကြောင်းတွေ့ရှိရပါ၍ စက်ရုံအဆောက်အဦတစ်ခုတည်းတွင် ကုန်ထုတ်လုပ်သည့်စက်များထပ်မံဖြည့်တင်း၍ ကုမ္ပဏီ(၂)ခု၏ လုပ်ငန်းများပူးတွဲဆောင်ရွက်ခြင်းမှာ လုပ်ငန်းသဘောသဘာဝအရ သင့်လျော်မှုရှိမရှိ Fair Sun Industry Co.,Ltd နှင့်ဖက်စပ်ပူးပေါင်းဆောင်ရွက်မည့်အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကိုရယူသင့်ပါသည် ။

၆။ အဆိုပြုမြေကွက်၏ မြေပေါ်အခြေအနေအား သိသာပါရန်နှင့် ယင်းမြေနေရာတွင် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်းတင်ပြအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
(တင့်ဆွေ၊ ဒုတိယဝန်ကြီး)
1.3/6

မိတ္တူကို - ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စာအမှတ် ၀၆၉ / အသဖ(ရင်းနှီးမြှုပ်နှံ)/ ၂၀၀၆
ရက်စွဲ ၂၀၀၆ ခုနှစ်၊ မတ်လ ၁၅ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ <u>သဘောထား မှတ်ချက်တောင်းခံခြင်း ကိစ္စ။</u>

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃. ၃. ၂၀၀၆) ရက်စွဲပါ စာအမှတ်၊ ရကာ - ၆ (က)/ မ - ၉၇၂/ ၂၀၀၆ (အလပ -၀၁၈)။

၁။ မိုနှင့် ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုံ (၃) မြေတိုင်း ရပ်ကွက် အမှတ် (၆၄)၊ တွင်းသင်းတိုက်ဝန် ဦးထွန်းညိုလမ်း၊ မြေကွက်အမှတ် (၁၂၆) တွင် လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာရာ၌ လျှပ်စစ်ဓာတ်အား (၁၀၀၀) ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ရည်ညွှန်းစာဖြင့် တောင်းခံခဲ့ပါသည်။

၂။ မိုနှင့် ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ ဖော်ပြပါ နေရာတွင် တောင်းခံလာသည့် လျှပ်စစ်ဓာတ်အား (၁၀၀၀) ကီလိုဝပ်အား စီစဉ်ပေးနိုင်ပါကြောင်း မှတ်ချက်ပြု ပြန်ကြားအပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)
( ဒေါက်တာစန်းဦး၊ ဦးဆောင်ညွှန်ကြားရေးမှူး )

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
သွင်းကုန်လုပ်ငန်းဌာန

စာအမှတ်။ စ/၁၅၇ / ၀၄၄ /(သွင်း-၇)
ရက်စွဲ ။ ၂၀၀၆ ခုနှစ်၊မေလ (၁၉)ရက်။

အကြောင်းအရာ။ **Fair Sun Industrial Co.,Ltd မှ တင်သွင်းခဲ့သော စက်ပစ္စည်းများအတွက် တင်သွင်းခဲ့သည့် နည်းလမ်းအား အကြောင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃-၃-၀၆)နေ့စွဲပါစာအမှတ်၊ ၇က-၆(က)/မ-၉၇၂/၂၀၀၆(အလပ-၀၁၉)။**

အထက်ရည်ညွှန်းပါစာအရ Fair Sun Industrial Co.,Ltd မှ စက်ပစ္စည်းများတင်သွင်းမှုတွင် တင်သွင်းသည့်နည်းလမ်းမှာ ပို့ကုန်ရငွေအား လွှဲပြောင်းရယူသောငွေဖြင့် လျှောက်ထားခြင်းဖြစ်ကြောင်း အကြောင်းပြန်ကြားအပ်ပါသည် ။

ညွှန်ကြားရေးမှူး(ကိုယ်စား)
(အေးမူ - ဒုတိယညွှန်ကြားရေးမှူး)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မိတ္တူ။ - ရုံးလက်ခံ
- မျှောစာတွဲ

M - ၃၃၂
၃၇/၇

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# အမှတ် (၁) စက်မှုဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ၂၅/၁စဘန(ဖက်စပ်)၂၀၀၆-၂၀၀၇(၅၅)
ရက် စွဲ၊ ၂၀၀၆ ခုနှစ် ဇူလိုင်လ ၂၈ ရက်

အကြောင်းအရာ။ အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co., Ltd. တို့ ဖက်စပ်တည်ထောင်သည့် မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၆ ခုနှစ် ဇူလိုင်လ ၁၃ ရက်နေ့စွဲပါစာအမှတ်၊ ၇က-၆(က)/မ-၉၇၂/၂၀၀၆(နပတ ၄၃၄)

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြနိုင်ရန် ဤဝန်ကြီးဌာန၏ ၂၀၀၆ ခုနှစ် ဇူလိုင်လ ၂၈ ရက်နေ့စွဲပါအမှာစာအမှတ်၊ ၂၅/၁စဘန(ဖက်စပ်)၂၀၀၆-၂၀၀၇(၅၅)၏ မိတ္တူစောင်ရေ(၃၀)စောင်ကို ပူးတွဲပေးပို့အပ်ပါသည်။

(signature)
၂၈/၇/၂၀၀၆
ဝန်ကြီး( )
မြင့်ဆွေ၊ ရုံးအဖွဲ့မှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

C:\D&S\All Users\Doc\Ums 3\July 3 06.pmd P 134

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**အမှတ်(၁)စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၅/၁စဘန(ဖက်စပ်)၂၀၀၆-၂၀၀၇( ၅၅ )
ရက် စွဲ ၊ ၂၀၀၆ ခုနှစ် ဇူလိုင် လ ၂၈ ရက်

အစီအစဉ်( )
ပြည်ထောင်စုမြန်မာနိုင်ငံတော်ကုန်သွယ်မှုမူဝါဒကောင်စီသို့တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ **အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီး ဌာနနှင့် Fair Sun Industry Co.,Ltd. တို့ ဖက်စပ်တည်ထောင်သည့် မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ် ရောင်းချဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ**

၁။ အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီး ဌာနနှင့် Fair Sun Industry Co.,Ltd. တို့ ဖက်စပ်တည်ထောင်သည့် မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြခဲ့ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ကမူအားဖြင့် သဘောတူညီခဲ့ပါသည်။

၂။ အဆိုပြုတင်ပြသည့် မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် မိုနှင့်ဒိုင်ပုံစံအမျိုးမျိုးကို ထုတ်လုပ်၍ ပြည်တွင်းပြည်ပဖြန့်ဖြူးရောင်းချသွားရန် ရည်ရွယ်ပါသည်။ ပြည်တွင်း၌ မိုနှင့်ဒိုင် ပုံစံအမျိုးမျိုးကို ထုတ်လုပ်နိုင်ခြင်းဖြင့် ပလပ်စတစ်ထည်ပစ္စည်းများ၊ ရာဘာပစ္စည်းများ၊ သံ၊ သံမဏိ သွန်းထည်ပစ္စည်းများ၊ ဖန်ထည်ပစ္စည်းများနှင့် ကြွေထည်ပစ္စည်းများထုတ်လုပ်သည့် ပြည်တွင်းစက်မှု လုပ်ငန်းများ၊ နိုင်ငံတော်၏ ကမကထပြုမှုနှင့် ထူထောင်ထားသည့် မန္တလေး၊ မုံရွာ၊ တောင်ကြီး အေးသာယာစက်မှုဇုန်ရှိ သံရည်ကျိုစက်ရုံလုပ်ငန်းများအတွက် မိုနှင့်ဒိုင်ပုံစံအမျိုးမျိုးလိုအပ်ချက် စသည်တို့ကို ဖြည့်ဆည်းပေးနိုင်မည်ဖြစ်ပါသည်။

၃။ လောလောဆယ်တွင် အဆိုပါမိုနှင့်ဒိုင်များကို ပြည်ပမှဝယ်ယူသုံးစွဲနေရသည်ဖြစ်၍ မိုနှင့်ဒိုင် စက်ရုံထူထောင်လုပ်ကိုင်ခြင်းသည် သွင်းကုန်အစားထိုးလုပ်ငန်းဖြစ်သကဲ့သို့ အရေအတွက် အမြောက်အများထုတ်လုပ်ရန်လိုအပ်သည့် လူသုံးကုန်နှင့်စက်အရံပစ္စည်းအစိတ်အပိုင်း ထုတ်လုပ်မှု လုပ်ငန်းများအတွက် များစွာအထောက်အကူပြုစေမည်ဖြစ်ပါသည်။

၄။ လက်ရှိအခြေအနေတွင် စက်မှုလုပ်ငန်းများအတွက် မိုနှင့်ဒိုင်များကို ပြည်ပမှမှာယူသုံးစွဲရာ နိုင်ငံခြားငွေများစွာကုန်ကျပြီး၊ လိုအပ်ချိန်တွင် အချိန်ကိုက်လွယ်ကူစွာမရရှိနိုင်ခြင်း၊ အရည်အသွေး စံချိန်စံညွှန်းအနည်းငယ်တိမ်းစောင်းမှုရှိပါက ညှိနှိုင်းဆောင်ရွက်ရန်အခက်အခဲရှိခြင်း စသည် တို့ကြောင့် အရည်အသွေးမီကုန်ပစ္စည်းများထုတ်လုပ်မှုတိုးတက်မြင့်မားရေးကို အဟန့်အတားဖြစ်စေ ပါသည်။

၅။ ပြည်တွင်းစက်မှုလုပ်ငန်းများအတွက် မိုနှင့်ဒိုင်ပုံစံအမျိုးမျိုးကိုထုတ်လုပ်ရင်း၊ ပြည်ပမှအမှာစာ များလက်ခံရရှိပါက မိုနှင့်ဒိုင်လုပ်ငန်းတွင် မရှိမဖြစ်တွဲဘက်အသုံးပြုရသော Mould & Die Base (မိုနှင့် ဒိုင်အထိုင်ခုံ)များကို တွဲဘက်ထုတ်လုပ်သွားမည်ဖြစ်ပါ၍ နိုင်ငံခြားဝင်ငွေကိုလည်းရှာဖွေပေး နိုင်မည်ဖြစ်ပါသည်။

၆။ ထို့ပြင် ပြည်တွင်း၌မိုနှင့်ဒိုင်ပုံစံအမျိုးမျိုးကို ထုတ်လုပ်နိုင်ခြင်းဖြင့် နိုင်ငံခြားငွေကုန်ကျမှုကို လျှော့နည်းသက်သာစေမည်ဖြစ်ပြီး၊ ပြည်တွင်းစက်မှုလုပ်ငန်းများ၏လိုအပ်ချက်များကို အချိန်ကိုက် စီမံထုတ်လုပ်ရောင်းချပေးသွားနိုင်မည်ဖြစ်သဖြင့် မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီကို ဖက်စပ် တည်ထောင်လုပ်ကိုင်ခြင်းသည် အဘက်ဘက်မှ အကျိုးကျေးဇူးရှိစေမည်ဖြစ်ပါသည်။

၇။ အဆိုပြုတင်ပြသည့် မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်၏ မိုနှင့်ဒိုင်အမျိုးမျိုးထုတ် လုပ်ခြင်းလုပ်ငန်းဆိုင်ရာအဓိကအချက်အလက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်ဖက်စပ်ဖွဲ့စည်းမှု

- 'က' အစုရှင် (၃၅%) - စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန၊ အမှတ်(၁)စက်မှုဝန်ကြီးဌာန
- 'ခ' အစုရှင် (၆၅%) - Fair Sun Industry Co.,Ltd.

| | | |
|---|---|---|
| (ခ) | ခွင့်ပြုမတည်ငွေရင်း | ကျပ်သန်း ၅,၀၀၀ (ကျပ်သန်းငါးထောင်တိတိ) |
| (ဂ) | အစုရှယ်ယာတစ်ခု၏တန်ဖိုး | ကျပ် ၁,၀၀၀ (ကျပ်တစ်ထောင်တိတိ) |
| (ဃ) | ကနဦးမတည်ရင်းနှီးငွေ | ကျပ်သန်း ၁၂၈၅. ၇၁၄<br>'က' အစုရှင် - ကျပ်သန်း ၄၅၀. ၀၀၀<br>'ခ' အစုရှင် - ကျပ်သန်း ၈၃၅. ၇၁၄ |
| (င) | အဆိုပြုလုပ်ငန်းတည်နေရာ | ရန်ကုန်တိုင်းရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ စက်မှုဇုန်(၃)၊ တွင်းသင်းတိုက်ဝန်ဦးထွန်းညိုလမ်း၊ မြေကွက်အမှတ်(၁၂၆) |
| (စ) | လုပ်ငန်းစီမံခန့်ခွဲမှု | (၁) 'က'အစုရှင်မှ ဒါရိုက်တာ(၂)ဦးနှင့်'ခ'အစုရှင်မှ ဒါရိုက်တာ(၃)ဦးဖြင့်ကနဦးဖွဲ့စည်းရန်၊<br>(၂) ဒါရိုက်တာအဖွဲ့ဥက္ကဋ္ဌကို'က'အစုရှင်ဘက်မှ တစ်နှစ်လျှင်တစ်ကြိမ်ရွေးကောက်တင်မြှောက်ရန်၊<br>(၃) နေ့စဉ်လုပ်ငန်းများကို စီမံခန့်ခွဲမည့်အုပ်ချုပ်မှုဒါရိုက်တာတစ်ဦးကို'ခ'အစုရှင်ဘက်မှခန့်ထားရန်၊ |
| (ဆ) | စာချုပ်သက်တမ်း | (၁) ကနဦး(၁၀)နှစ်ဖြစ်ပြီး၊ နောက်ထပ်တစ်ကြိမ်လျှင်(၅)နှစ်စီဖြင့် သုံးကြိမ်တိုးမြှင့်နိုင်သည်။<br>(၂) သက်တမ်းမကုန်မီ ကုမ္ပဏီကိုရပ်စဲလိုပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက်ကိုရယူပြီးမြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီရပ်စဲဖျက်သိမ်းရမည်။ |
| (ဇ) | မြေနှင့်အဆောက်အဦးငှားရမ်းသုံးစွဲခြင်း | အဆိုပြုလုပ်ငန်းတည်နေရာရှိမြေဧက(၁. ၈၆၈) နှင့် မြေကွက်ပေါ်ရှိ အဆောက်အဦများကိုပိုင်ရှင်'ခ'အစုရှင်ထံမှ ကနဦး(၁၀)နှစ်ငှားရမ်းအသုံးပြုပါမည်။ |

၈။ အဆိုပါ ဖက်စပ်လုပ်ငန်းထူထောင်လုပ်ကိုင်မည့် အဆိုပြုချက်နှင့်ပတ်သက်၍ ၇. ၇. ၂၀၀၆ ရက်တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၂/၂၀၀၆)အစည်းအဝေးမှ ပြည်ထောင်စုမြန်မာနိုင်ငံတော်ကုန်သွယ်မှု မူဝါဒကောင်စီသို့တင်ပြလမ်းညွှန်မှုခံယူရန်ဆုံးဖြတ်ခဲ့ပါသည်။

၉။ ဆုံးဖြတ်ရန်အချက်။ အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co.,Ltd. တို့ဖက်စပ်တည်ထောင်သည့် မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ မိုနှင့်ဒိုင်ပုံစံအမျိုးမျိုးထုတ်လုပ်၍ ပြည်တွင်း/ပြည်ပဖြန့်ဖြူးရောင်းချ ခြင်းလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်အားခွင့်ပြုရန် သင့်-မသင့်ဆုံးဖြတ်ရန်ဖြစ်ပါသည်။

၁၀။ အမှတ်(၁)စက်မှုဝန်ကြီးဌာနမှထောက်ခံချက်။ အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co.,Ltd. တို့ဖက်စပ်တည်ထောင်သည့် မိုနှင့်ဒိုင် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်၍ ပြည်တွင်း/ပြည်ပဖြန့်ဖြူးရောင်းချမည့် လုပ်ငန်းဆောင်ရွက်ခြင်းအား ထောက်ခံတင်ပြအပ်ပါသည်။

အောင်သောင်း
ဝန်ကြီး

**ပြည်ထောင်စုမြန်မာနိုင်ငံတော်**
**ကုန်သွယ်မှု မူဝါဒကောင်စီ**

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၉ / ၁ စ(၁)/ ၂၀၀၆(စစ)
ရက် စွဲ ၊ ၂၀၀၆ ခုနှစ်၊ ဇူလိုင် လ ရက်

အကြောင်းအရာ။ **အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co., Ltd. တို့ ဖက်စပ်တည်ထောင်သည့်နှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၆ခုနှစ် ဇွန် လ ၂၉ ရက်စွဲပါစာအမှတ်၊ ရက-၁/ မ-၉၇၂ / ၂၀၀၆(နပတ-၃၉၆)

၁။ မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်(Mould And Die Industry Co., Ltd.)မှ အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် ရွှေပြည်သာစက်မှုဇုန်ရှိမြေပေါ်တွင် Fair Sun Industry Co, Ltd. မော်တော်ယာဉ်အပိုပစ္စည်းထုတ်လုပ်ငန်းနှင့် မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်ငန်းများ ပူးတွဲဆောင်ရွက်မှုနှင့် စပ်လျဉ်း၍ လုပ်ငန်းသဘောသဘာဝအရ သင့်လျော်မှုရှိ မရှိ အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါအကြောင်းအချက်များအရ သင့်လျော်မှုရှိပါကြောင်း တွေ့ရှိရပါသည်-

(က) အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co., Ltd. တို့မှ ဝယ်ယူတင်သွင်းသောစက်ပစ္စည်းများဖြင့် Mould And Die Industry Co., Ltd. ၏ လုပ်ငန်းများဆောင်ရွက်ရန် ပြည့်စုံမှုမရှိခြင်း၊

(ခ) Mould And Die Industry Co., Ltd. ၏လုပ်ငန်းများကိုအားဖြည့်ရန်အတွက် Fair Sun Industry Co., Ltd. ပိုင် စက်ပစ္စည်းများကို မိုနှင့်ဒိုင်စက်များနှင့် နီးစပ်သောနေရာတွင် သီးခြားခွဲခြားသတ်မှတ်၍ စက်များတပ်ဆင်ထားရှိခြင်း၊

(ဂ) လက်တွေ့လုပ်ငန်းဆောင်ရွက်ရာတွင် Mould And Die Industry Co., Ltd. သည် သီးခြားလုပ်ငန်းအနေဖြင့်ရပ်တည်၍ ဒါရိုက်တာအဖွဲ့၏ဦးဆောင်လမ်းညွှန်မှုဖြင့် ဝန်ထမ်းရေးရာကိစ္စရပ်များ၊ စက်ကိရိယာအသုံးပြုခြင်းကိစ္စရပ်များ၊ ငွေရေးကြေးရေးကိစ္စရပ်များနှင့် ကုန်ပစ္စည်းထုတ်လုပ်မှုကိစ္စရပ်များကို သီးခြားဆောင်ရွက်သွားမည်ဖြစ်ခြင်း။

၃။ သို့ဖြစ်ပါ၍ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co., Ltd. တို့ ဖက်စပ်တည်ထောင်မည့် Mould And Die Industry Co., Ltd. မှ မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းအပေါ် အမှတ်(၁)စက်မှုဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီး ( )
မြင့်ဆွေ၊ ရုံးအဖွဲ့မှူး

**<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>**

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
သွင်းကုန်လုပ်ငန်းဌာန

စာအမှတ်။ စ/၁၅၇ / ၀၄၄ /(သွင်း-၇)
ရက်စွဲ ။ ၂၀၀၆ ခုနှစ်၊မေလ (၁၉)ရက်။

အကြောင်းအရာ။ **Fair Sun Industrial Co.,Ltdမှ တင်သွင်းခဲ့သော စက်ပစ္စည်းများအတွက် တင်သွင်းခဲ့သည့် နည်းလမ်းအား အကြောင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ **မြန်မာနိုင်ငံရင်းနှီးမြှပ်နှံမှုကော်မရှင်၏ (၃-၃-၀၆)နေ့စွဲပါစာအမှတ်၊ ၇က-၆(က)/မ-၉၇၂/၂၀၀၆(အလပ-၀၁၉)။**

အထက်ရည်ညွှန်းပါစာအရ Fair Sun Industrial Co.,Ltdမှ စက်ပစ္စည်းများတင်သွင်းမှုတွင် တင်သွင်းသည့်နည်းလမ်းမှာ ပို့ကုန်ရငွေအား လွှဲပြောင်းရယူသောငွေဖြင့် လျှောက်ထားခြင်းဖြစ်ကြောင်း အကြောင်းပြန်ကြားအပ်ပါသည် ။

ညွှန်ကြားရေးမှူး(ကိုယ်စား)
(အေးမူ - ဒုတိယညွှန်ကြားရေးမှူး)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှပ်နှံမှုကော်မရှင်
မိတ္တူ။ - ရုံးလက်ခံ
- မျှောစာတွဲ

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**

**လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**

စာအမှတ် ဝ၆၉၉/အသဖ(ရင်းနှီးမြှုပ်နှံ)/၂၀၀၆

ရက်စွဲ ၂၀၀၆ ခုနှစ်၊ မတ်လ ၁၅ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ သဘောထား မှတ်ချက်တောင်းခံခြင်း ကိစ္စ။

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃.၃.၂၀၀၆) ရက်စွဲပါ စာအမှတ်၊ ရက - ၆ (က)/ မ - ၉၇၂/၂၀၀၆ (အလပ -၀၁၈)။

၁။ မိုနှင့် ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုံ (၃) မြေတိုင်းရပ်ကွက် အမှတ် (၆၄)၊ တွင်းသင်းတိုက်ဝန် ဦးထွန်းညိုလမ်း၊ မြေကွက်အမှတ် (၁၂၆) တွင် လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာရာ၌ လျှပ်စစ်ဓာတ်အား (၁၀၀၀) ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ရည်ညွှန်းစာဖြင့် တောင်းခံခဲ့ပါသည်။

၂။ မိုနှင့် ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ ဖော်ပြပါ နေရာတွင် တောင်းခံလာသည့် လျှပ်စစ်ဓာတ်အား (၁၀၀၀) ကီလိုဝပ်အား စီစဉ်ပေးနိုင်ပါကြောင်း မှတ်ချက်ပြု ပြန်ကြားအပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)

( ဒေါက်တာစန်းဦး၊ ဦးဆောင်ညွှန်ကြားရေးမှူး )

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**

စာအမှတ်၊ ၆၆/ခွဲ-၃ /MIC /၂၀၀၆ (စီ ၂၁၆၃)
ရက် စွဲ၊ ၂၀၀၆ခုနှစ် ဇွန်လ ၁၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၆ခုနှစ် မတ်လ (၃)ရက် နေ့စွဲပါ စာအမှတ် ၊ ၇က-၆(က)/မ-၉၇၂/၂၀၀၆ (အလပ -၀၁၇)

၁။ မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃) မြေတိုင်း ရပ်ကွက်အမှတ်(၆၄)၊ တွင်းသင်းတိုက်ဝန်ဦးထွန်းညိုလမ်း၊ မြေကွက်အမှတ်(၁၂၆)ရှိမြေနှင့် ယင်းမြေပေါ်ရှိ"အဆောက်အဦကိုငှားရမ်း၍"မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြခြင်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာ ဖြင့် သဘောထားမှတ်ချက် တောင်းခံလာပါသဖြင့် အဆိုပြုမြေကွက်အား စိစစ်ရာ ၁.၈၆၈ ဧက (၂၂၁/၃၀၂ ပေ × ၂၆၃/၃၈၈ ပေ) အကျယ်ရှိမြေကွက်အား ခြံစည်းရိုး ကာရံထားပြီးမြေပေါ်တွင် (၂၂၀ ပေ × ၁၀၀ ပေ) အကျယ်ရှိ Steel Structure တစ်ထပ်စက်ရုံ အဆောက်အဦနှင့် တွဲလျက် (၃၀ ပေ × ၁၀၀ ပေ) ရှိ RC နှစ်ထပ်ရုံးခန်း အဆောက်အဦ (၁)လုံး၊ (၄၀ပေ × ၁၀၀ပေ) ရှိ Steel Structure တစ်ထပ်စတိုအဆောက်အဦ (၁) လုံး၊ စက်ရုံဘေးတွင် (၁၀၀ပေ × ၁၀၀ပေ) ရှိ Steel Structure အမိုးမိုးပြီး၊ အကာမရှိတစ်ထပ်အဆောက်အဦ (၁)လုံး (၅၀ပေ × ၆၀ပေ) ရှိ RC နှစ်ထပ် ဝန်ထမ်းအိမ်ရာအဆောက်အဦ(၁)လုံးတို့ဆောက်လုပ်ထားပါသည်။ (အဆိုပြုမြေကွက်နှင့်ပတ်ဝန်းကျင် အခြေအနေပြ မြေပုံကြမ်းပူးတွဲတင်ပြအပ်ပါသည်။)

၂။ အဆိုပါအဆောက်အဦများတွင် အောက်ဖော်ပြပါလုပ်ငန်းများဆောင်ရွက်လျက်ရှိပါသည် -

(က) (၂၂၀ပေ×၁၀၀ပေ)ရှိ စက်ရုံအဆောက်အဦတွင်မိုနှင့်ဒိုင်ထုတ်လုပ်သည့် စက်ပစ္စည်း ကရိယာ(၃၇)မျိုးနှင့် Fair Sun Industry Co.,Ltd ၏ စက်ပစ္စည်း(၁၆)မျိုး( စုစုပေါင်း ၅၃ မျိုး) တပ်ဆင်ထားပြီး "Fair Sun Mould & Die Industry " အမည်ဖြင့် မိုနှင့်ဒိုင် ထုတ်လုပ်ခြင်းလုပ်ငန်းကို Test Run စမ်းသပ်ဆောင်ရွက်လျက်ရှိပါသည်။ (ကုမ္ပဏီမှ တင်ပြသော စက်ရုံအတွင်း စက်ပစ္စည်းတပ်ဆင်ထားမှုပုံစံနှင့် စက်ပစ္စည်း စာရင်း ကို ပူးတွဲတင်ပြအပ်ပါသည်။)

(ခ ) ယင်းစက်ရုံဘေးရှိ (၁၀၀ပေ× ၁၀၀ပေ) Steel Structure တစ်ထပ်အဆောက်အဦ တွင် အလူမီနီယမ်နှင့် သံရည်ကျိုစက်ပစ္စည်းကရိယာများတပ်ဆင်ထားပြီး Fair Sun Industry Co.,Ltd အလူမီနီယမ်ကျိုခြင်းဆောင်ရွက်လျက်ရှိပါသည် ။

၃။ Fair Sun Industry Co.,Ltd သည် ၂၀၀၁ခုနှစ်က အဆိုပြုမြေနေရာတွင် "မော်တော်ယာဉ်အပိုပစ္စည်း၊ဆိုင်ကယ်/စက်ဘီးအပိုပစ္စည်းနှင့်ပရိဘောဂအရံပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း"ဆောင်ရွက်ခွင့်ပြုပါရန်လုပ်ငန်းအဆိုပြုချက်တင်ပြခဲ့ရာမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သတ်မှတ်ချက်နှင့်မကိုက်ညီ၍ လက်မခံခဲ့ကြောင်းသိရှိရပါသည်။ ယခုအခါ Fair Sun Industry Co., Ltd သည် ယင်းမြေကွက်ပေါ်တွင် ၂၀၀၃ခုနှစ်မှစ၍ အဆိုပါ မော်တော်ယာဉ် အပိုပစ္စည်း ထုတ်လုပ်သည့်လုပ်ငန်းကို ကုမ္ပဏီမှတ်ပုံတင်အမှတ် -၁၆၇/၂၀၀၀-၂၀၀၁ (၂. ၅. ၂၀၀၁)၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်လက်မှတ် - ၇က/ ကြီး/ ၁၄၃၉ (၂၈. ၇. ၂၀၀၃) နှင့် ထုတ်ကုန်သွင်းကုန် လုပ်ငန်းရှင်မှတ်ပုံတင်အမှတ် - ၁၃၃၅၅ (၁၆. ၈. ၂၀၀၀) တို့အရ လုပ်ကိုင် ဆောင်ရွက်လျက် ရှိပါသည်။

၄။ စိစစ်တွေ့ရှိချက်များအရ အဆိုပြု မြေကွက်တစ်ကွက်တည်းပေါ်တွင် မူလ Fair Sun Industry Co.,Ltd ၏ မော်တော်ယာဉ် အပိုပစ္စည်းလုပ်ငန်းသာမက ၊ မိုနှင့်ဒိုင်စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်၏ မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်သည့် လုပ်ငန်းပါပူးတွဲ ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် ယင်းလုပ်ငန်း (၂)မျိုးစလုံး၏ စက်ပစ္စည်းများကိုလည်း စက်ရုံအဆောက်အဦ (၁)လုံး တည်းတွင်ပင် ပူးတွဲတပ်ဆင်ထားပါကြောင်း တွေ့ရှိပါသည် ။

၅။ မိုနှင့်ဒိုင်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည်အမှတ် (၁)စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co.,Ltd တို့ပူးပေါင်းဆောင်ရွက်မည့် ဖက်စပ်ကုမ္ပဏီဖြစ်ကြောင်းတွေ့ရှိရပါ၍ စက်ရုံအဆောက်အဦတစ်ခုတည်းတွင် ကုန်ထုတ်လုပ်သည့် စက်များထပ်မံဖြည့်တင်း၍ ကုမ္ပဏီ(၂)ခု၏ လုပ်ငန်းများပူးတွဲဆောင်ရွက်ခြင်းမှာ လုပ်ငန်းသဘော သဘာဝအရ သင့်လျော်မှုရှိမရှိ Fair Sun Industry Co.,Ltd နှင့်ဖက်စပ်ပူးပေါင်းဆောင်ရွက်မည့် အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကိုရယူသင့်ပါသည် ။

၆။ အဆိုပြုမြေကွက်၏ မြေပေါ်အခြေအနေအား သိသာပါရန်နှင့် ယင်းမြေနေရာတွင် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်းတင်ပြအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
(တင့်ဆွေ၊ ဒုတိယဝန်ကြီး)

မိတ္တူကို - ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။

အလျင်အမြန်

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

Fax : 95-67-406333
95- 1-254660

တယ်လီဖုန်း-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅
၀၁-၃၇၂၈၉၀၊၃၇၂၂၁၉

စာအမှတ်၊ရက-၁ /မ-၉၇၂/၂၀၀၆(နပတ-၃၉၆)
ရက်စွဲ၊၂၀၀၆ ခုနှစ်၊ ဇွန်လ ၂၉ ရက်

အကြောင်းအရာ။ ။ အမှတ်(၁) စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနနှင့် Fair Sun Industry Co.,Ltd တို့ ဖက်စပ်တည်ထောင်သည့် မိုနှင့်ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ မိုနှင့်ဒိုင် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။ (၁) အမှတ်(၁) စက်မှုဝန်ကြီးဌာန၏ (၃၀-၁-၂၀၀၆) ရက်စွဲပါ စာအမှတ်၊ ၂၅/၁ စဘန (ဖက်စပ်) (၂၀၀၅-၂၀၀၆) (၁၀၅၁)။
(၂)ဆောက်လုပ်ရေးဝန်ကြီးဌာန၏ (၁၃-၆-၂၀၀၆) ရက်စွဲပါ စာအမှတ်၊ ၆၆/ခွဲ-၃/ MIC /၂၀၀၆ ( စီ ၂၁၆၃)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ အမှတ်(၁) စက်မှုဝန်ကြီးဌာနမှ ရည်ညွှန်းချက် (၁)ပါ စာဖြင့် တင်ပြလာသော အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ် ၊ စက်မှုဇုန်(၃) မြေတိုင်းရပ်ကွက် အမှတ်(၆၄)၊ တွင်းသင်းတိုက်ဝန် ဦးထွန်းညိုလမ်း ၊ မြေကွက်အမှတ် (၁၂၆) မြေနေရာ နှင့်စပ်လျဉ်း၍ ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ သဘောထား မှတ်ချက် တောင်းခံ ခဲ့ပါသည်။

၂။ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထား ပြန်ကြားချက်တွင် မိုနှင့်ဒိုင် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ရွှေပြည်သာ စက်မှုဇုန်ရှိ မြေပေါ်တွင် မော်တော်ယာဉ် အပိုပစ္စည်း ထုတ်လုပ်သည့် လုပ်ငန်းနှင့် မိုနှင့်ဒိုင်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းများ ပူးတွဲ ဆောင်ရွက်နေခြင်းအတွက် ဖက်စပ်ဆောင်ရွက်မည့် အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက် ရယူသင့်ပါကြောင်း ပြန်ကြားထားပါသည်။

၃။ သို့ပါ၍ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထား ပြန်ကြားချက် နှင့်အညီ အဆိုပြုနေရာတွင် ဆောင်ရွက်နေသော လုပ်ငန်းများနှင့် စပ်လျဉ်း၍ အမှတ်(၁) စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်အား ဆောလျှင်စွာ ပြန်ကြားပေးပါရန် ရည်ညွှန်း(၂)ပါ စာမိတ္တူကို ပူးတွဲပေးပို့လျှက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည် ။

အမိန့်အရ

(မြသူဇာ)
ညွှန်ကြားရေးမှူး

ဝန်ကြီးရုံး
အမှတ်(၁)စက်မှုဝန်ကြီးဌာန

D:\MCIL\REPLY\Fair Sun Industry Co.,Ltd.doc

နည်းအားဖြင့် ရန်ကုန်မြို့တွင် ဖြေရှင်းရမည်။ အနုညာတ ခုံသမာဓိလူကြီး တစ်ဦးစီကို တစ်ဖက်စီက ခန့်ထားပြီး ဖြေရှင်းစေရမည်။ ထိုပြဿနာကို ခုံသမာဓိလူကြီးနှစ်ဦးက ဖြေရှင်းစေကာမူ အငြင်းပွားမှုကို မဖြေရှင်းနိုင်ပါက ခုံသမာဓိလူကြီး နှစ်ဦးက ဒိုင်လူကြီး (**UMPIRE**) တစ်ဦးကို နှစ်ဦးသဘောတူ ရွေးချယ်ပြီး ဆုံးဖြတ်စေရမည်။ ထိုခုံသမာဓိလူကြီးများ (သို့) ဒိုင်လူကြီး၏ အဆုံးအဖြတ်သည် အပြီးအပြတ် ဖြစ်စေရမည်။ အနုညာတခုံဖြင့် ဆောင်ရွက်ရာတွင်၁၉၄၄ခုနှစ်၊အနုညာတအက်ဥပဒေ ( ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအက် ဥပဒေ-၄အရ) ပြဋ္ဌာန်းချက်များနှင့်အညီဆောင်ရွက်ရမည်။ခုံသမာဓိရုံး၏ကုန်ကျစရိတ်ကို အမှုရှုံးသည့်ဖက်မှ ပေးချေရမည်။

**အပိုဒ်-၁၉။ လိုက်နာရမည့်ဥပဒေ**

၁၉-၀၁ နှစ်ဖက်သော စာချုပ်ဝင်များသည် ၎င်းတို့၏ ဤစာချုပ်ပေါ်၌ ပေါ်ပေါက်လာသည့် တာဝန် ဝတ္တရားများကို ပြည်ထောင်စု မြန်မာနိုင်ငံတော် ၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းကမ်းဥပဒေ၊ လုပ်ထုံး လုပ်နည်း ဥပဒေနှင့် ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ကြရမည်။

**အပိုဒ်-၂၀။ စာချုပ်ပြင်ဆင်ခြင်း။**

၂၀-၀၁ စာချုပ်တွင် ဖော်ပြပါရှိခြင်းမရှိသောကိစ္စရပ်များကြောင့် ဖြစ်ပေါ်မှုတစ်ရပ်ရပ် သို့မဟုတ် အခြေအနေ တစ်ရပ်ရပ် ပေါ်ပေါက်ပြီး၊ စာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက သက်ဆိုင်သူများသည် လိုအပ်သော ညှိနှိုင်းမှုများကို ပြုလုပ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြအတည်ပြုချက် ရယူပြီး၊ စာချုပ်ကို ပြင်ဆင်ခွင့်ရှိသည်။

**အပိုဒ်-၂၁။ စာချုပ်ရပ်စဲခြင်း။**

၂၁-၀၁ ဤသဘောတူစာချုပ်သည် အောက်ပါကိစ္စရပ်တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက သဘောတူစာချုပ်ကို ရပ်စဲနိုင်သည်။

(က) ဤသဘောတူစာချုပ်တွင် ဖော်ပြထားသော တာဝန်ဝတ္တရားများကို သက်ဆိုင်ရာ အစုရှင်က ပြည့်စုံစွာ တာဝန် မယူနိုင်ခြင်း။

(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်များ (၆)လကျော်လွန်ပြီး ဆက်တိုက် ဖြစ်ပေါ်ခြင်း။

(ဂ) ဖက်စပ်ကုမ္ပဏီသည် အရှုံးငွေ အမြောက်အမြား ဖြစ်ပေါ်လာခြင်းနှင့် အဆက်မပြတ် အရှုံးပေါ်နေခြင်း။

(ဃ) ဖက်စပ်ကုမ္ပဏီ၏ မူလရည်ရွယ်ချက်နှင့် ရည်မှန်းချက်များကို အကောင်အထည်ဖော်ရန် မဆောင်ရွက်နိုင်တော့ခြင်း။

(င) နှစ်ဖက်အဖွဲ့ဝင်များအချင်းချင်းလုပ်ငန်းရပ်စဲရန်စာဖြင့် ရေးသားသဘောတူခြင်း။

(စ) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

၂၁-၀၂ စာချုပ်တွင်လက်မှတ်ရေးထိုးသည့် စာချုပ်ဝင်များအနက် တစ်ဦးဦးက ဆက်လက်ဆောင်ရွက်ရန် ဆန္ဒမရှိ၍သော်လည်းကောင်း၊ စာချုပ်ဝင်တစ်ဘက်ဘက်မှ ဤစာချုပ်ပါ အချက်အလက်များ ဖေါက်ဖျက် ကျူးလွန်ခြင်းကို အခိုင်အမာသက်သေပြနိုင်လျှင်သော်လည်းကောင်း တရားဝင်စာဖြင့် ရက်ပေါင်း(၉၀) ကြိုတင်အသိပေးပြီး ပယ်ဖျက်နိုင်သည်။

၂၁-၀၃ လုပ်ငန်းရပ်စဲခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးနောက် တည်ဆဲဥပဒေများနှင့်အညီ ဆောင်ရွက်မှသာ သက်ရောက်မှုရှိသည်။

**အပိုဒ်-၂၂။ စာချုပ်အတည်ဖြစ်ခြင်း**

၂၂-၀၁ ဤသဘောတူစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက် ရရှိမှသာ အတည် ဖြစ်သည်။

## အပိုဒ်-၂၃။ ပတ်ဝန်းကျင်ကို ကာကွယ်ထိန်းသိမ်းခြင်း

၂၃-၀၁ ဖက်စပ်ကုမ္ပဏီ၏လုပ်ငန်းများ ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရန် တာဝန် ရှိသည်။ ဖက်စပ်ကုမ္ပဏီသည် လေ၊ ရေ၊ မြေ နှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုကို ထိန်းသိမ်းရန် လိုအပ်သော ဆောင်ရွက်မှုများ ၊ စီမံခန့်ခွဲမှုများပြုလုပ်၍ သဘာဝ ပတ်ဝန်းကျင်ကို ထိန်းသိမ်း ကာကွယ်ပေးရမည်။

## အပိုဒ်-၂၄။ ဆက်သွယ်ဆောင်ရွက်မှု

၂၄-၀၁ နို့တစ်စာများ သို့မဟုတ် အခြားအချက်အလက်အကြောင်းကြားချက်များကို မြန်မာဘာသာဖြင့် ရေးသားပြီး၊ စာတိုက်မှတ်ပုံတင်ချောစာဖြင့်ဖြစ်စေ ၊ တဲလက်စ်ဖြင့်ဖြစ်စေ၊ ဖက်စ်ဖြင့်ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာအဖွဲ့သို့ ဆက်သွယ်ဆောင်ရွက်နိုင်သည်။ ဆက်သွယ်ရန်လိပ်စာမှာ စာချုပ်တွင် ဖော်ပြပါရှိသော လိပ်စာအတိုင်း ဖြစ်ပါသည်။

(၁) ဦးသိုက်ထွန်း
ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
အမှတ်(၁)စက်မှုဝန်ကြီးဌာန
အမှတ်(၁၉၂)၊ ကမ္ဘာအေးဘုရားလမ်း၊
ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်း။

(၂) ဒေါက်တာဖေခင်
မန်နေဂျင်းဒါရိုက်တာ
**FAIR SUN INDUSTRY CO., LTD.**
အမှတ်(၁၂၆)၊ တွင်းသင်းတိုက်ဝန်
ဦးထွန်းညိုလမ်း၊ စက်မှုဇုန်(၃)၊
ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။

၂၄-၀၂ ဤကဲ့သို့စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့်အခါတွင် တစ်ဦးကလက်ခံရရှိကြောင်း ပြန်ကြားစာ ရရှိမှသာ ပေးပို့ခြင်းကို အတည်ပြုနိုင်သည်။ အကယ်၍လိပ်စာ ပြောင်းလဲပါက စာဖြင့် ရေးသား၍ အကြောင်းကြားရမည်။

## အပိုဒ်-၂၅။ လျှို့ဝှက်ချက်

၂၅-၀၁ စာချုပ်တွင် လက်မှတ်ရေးထိုးကြသူ နှစ်ဦးစလုံးသည် ဖက်စပ်ကုမ္ပဏီက ထုတ်လုပ်သည့်ပစ္စည်းများ၏ စံညွှန်းများ၊ အချက်အလက်များကို အခြားတတိယ အဖွဲ့အစည်း သို့မဟုတ် ပုဂ္ဂိုလ် တစ်ဦးသို့ လွှဲပြောင်းပေးခြင်းမပြုလုပ်ရ။

## အပိုဒ်-၂၆။ လုပ်ငန်းဆောင်ရွက်မှု

၂၆-၀၁ ဖက်စပ်ကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်မှု ကိစ္စအဝဝကို ဒါရိုက်တာအဖွဲ့ အစည်းအဝေးတွင် ဆွေးနွေး ဆုံးဖြတ်ချက်များအရသာ အရေးယူဆောင်ရွက်ရမည်။

## အပိုဒ်-၂၇။ စာရင်းများထားရှိခြင်း

၂၇-၀၁ ဖက်စပ်ကုမ္ပဏီ၏ စာရင်းများ မှတ်တမ်းများကို နိုင်ငံတကာအဆင့်မီ စာရင်းထားသိုနည်းများ အတိုင်း ထားရှိရမည်။

## အပိုဒ်-၂၈။ အထွေထွေ

၂၈-၀၁ ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များသည်မြေငှားစာချုပ်ပါ ပြဋ္ဌာန်းချက်များနှင့်သော်လည်းကောင်း သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတို့တွင် ဖော်ပြပါရှိချက်များနှင့်သော်လည်းကောင်း၊ ညီညွတ်မှု မရှိပါက ဤစာချုပ်ပါပြဋ္ဌာန်းချက်များက လွှမ်းမိုးသည်။

၂၈-၀၂ ဤစာချုပ်နှင့် နောက်ဆက်တွဲများပုံစံများ၊ စာရင်းဇယားများ၊ မြေပုံများသည် ဤစာချုပ်၏ အစိတ်အပိုင်းများဖြစ်စေရမည်။

၂၈-၀၃ ဤစာချုပ်သည် နှစ်ဦးနှစ်ဖက်တို့ နားလည်သဘောပေါက်သည့်အလျောက် ဤစာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှစ၍ အတည်ဖြစ်သည်။

စာချုပ်ဝင်များသည် အထက်ပါ အချက်အလက်များကို နားလည်သဘောပေါက်သိရှိရသည့်အတိုင်း အောက်ပါအသိသက်သေများရှေ့မှောက်တွင် ရန်ကုန်မြို့၌ ၂၀၀၅ ခုနှစ်၊ ----------လ (     )ရက်နေ့တွင် အတည်ပြုရေးထိုးတံဆိပ်ရိုက်နှိပ်ကြသည်။

"ကအစုရှင်"

---------------------------------

(၁) ဦးသိုက်ထွန်း
ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
အမှတ်(၁)စက်မှုဝန်ကြီးဌာန (ကိုယ်စား)

"ခအစုရှင်"

---------------------------------

(၂) ဒေါက်တာဖေခင်
မန်နေဂျင်းဒါရိုက်တာ
**FAIR SUN INDUSTRY CO., LTD.** (ကိုယ်စား)

**<u>အသိသက်သေများ</u>**

၁။---------------------------------
အမည် ---[illegible]---
မှတ်ပုံတင်---[illegible]---
နေရပ်-စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
အမှတ်(၁)စက်မှုဝန်ကြီးဌာန၊

၂။---------------------------------
အမည် ---ဦးသိန်းငွေ---
မှတ်ပုံတင်---[illegible]---
နေရပ်-အမှတ်(၅၁)၊ ပန်းဝါလမ်း၊ (၁၁)ရပ်[illegible]
ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ ရန်ကုန်မြို့

နောက်ဆက်တွဲ-၃

## မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် ( မူကြမ်း )

မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် (နောင်တွင်-အငှားစာချုပ်-ဟုခေါ်ဆိုရမည်) ကို၊ ရန်ကုန်မြို့၌၊၂၀၀၅ခုနှစ် ----- လ----- ရက်နေ့တွင်၊အမှတ်-၂၉၊ လမ်း ၁၃၀ သပြေကုန်းရပ်ကွက်၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့ နေ ဒေါက်တာဖေခင်၊( နိုင်ငံသား မှတ်ပုံတင်အမှတ်-၁၂/မဂတ(နိုင်) ၀၈၀၈၂၅) (ဤမှ နောင်တွင်-"အငှားချထားသူ"- ဟု ရည်ညွှန်း ခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင်၊ စာသားများအရ သော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများ နှင့် ဥပဒေ အရ ခွင့်ပြုလွှဲအပ်ခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည် ) တို့က တစ်ဖက်

နှင့်

ပြည်ထောင်စုမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေအရ မှတ်ပုံတင်ဖွဲ့စည်းထားသည့် မို နှင့် ဒိုင် စက်မှုလုပ်ငန်းကုမ္ပဏီ လီမိတက် တစ်ခုဖြစ်သော ( **Mould & Die Industry Company Limited** ) ( ဤမှ နောင်တွင် " အငှားချထားခြင်းခံရသူ " ဟု ရည်ညွှန်းခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင်၊ စာသားများအရသော်လည်းကောင်း၊အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊၎င်း၏ တရားဝင်ကိုယ်စားလှယ်များ ဆက်ခံသူများနှင့် ဥပဒေအရ ခွင့်ပြုလွှဲအပ်ခံရသူများပါဝင်သည်ဟု မှတ်ယူရမည် ) ဤအငှားစာချုပ်အား ချုပ်ဆိုရန်၊ ကိုယ်စားပြု တာဝန်ပေးအပ်ခြင်းခံရသော ဒါရိုက်တာ ဦးသိန်းငွေ က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍အငှားစာချုပ်ကို ချုပ်ဆိုကြပါသည်။

၁။ ရည်ရွယ်ချက်

အငှားစာချုပ်အရ "အငှားချထားခြင်းခံရသူ" သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ရန်ကုန်မြို့၊ ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-(၆၄)၊ စက်မှုဇုန်(၃)၊ တွင်းသင်းတိုက်ဝန်ဦးထွန်းညိုလမ်း၊ မြေကွက်အမှတ် (၁၂၆)၊ ဧရိယာ (၁. ၈၆၈) ဧက (၈၁,၃၇၀ စတုန်းပေ) အကျယ်အဝန်း ရှိသောမြေကွက် နှင့် ယင်းမြေကွက်ပေါ်ရှိ ( ၂၂၀ ပေ **x** ၁၀၀ ပေ) ရှိ တစ်ထပ်အဆောက်အဦ နှင့် တွဲလျှက် ( ၃၀ ပေ **x** ၁၀၀ ပေ ) ရှိ နှစ်ထပ်အဆောက်အဦ (၁)လုံး နှင့် (၁၀၀ ပေ **x** ၄၀ ပေ) ရှိ တစ်ထပ် အဆောက်အဦး (၁)လုံး၊ တို့ကို နိုင်ငံတကာအဆင့်အတန်းမီ **Mould & Die** ( မို နှင့် ဒိုင် ပုံစံ အမျိုးမျိုး ) ထုတ်လုပ်သည့်စက်ရုံ တည်ထောင်ရန် အတွက် ကနဦး(၁၀)နှစ် ငှားရမ်းခြင်းဖြစ်ပါသည်။

၂။အာမခံခြင်း နှင့် ကိုယ်စားပြုခြင်း

အငှားချထားသူသည် ဤမြေကို မိမိလက်ဝယ်တွင်ရှိပြီး၊ တရားဝင်ပိုင်ဆိုင်မှုရှိကြောင်း အာမခံသည်၊ ဤမြေကို အငှားချထားခံရသူအား အငှားချထားရန် သဘောတူသည်။ ဤအငှားချထားခြင်းခံရသူ သည် စာချုပ်ကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အားပြည့်စုံသော ကုမ္ပဏီလီမိတက် ဖြစ်ပါသည်။ ဤစာချုပ်တွင် လက်မှတ်ရေးထိုးသူ နှစ်ဖက်စလုံးသည် ဤသဘောတူ စာချုပ်ချုပ်ဆိုနိုင်ရန် ဥပဒေအရ လုပ်ပိုင်ခွင့် အာဏာ နှင့် ပြည့်စုံသူများ ဖြစ်ကြောင်း အာမခံသည်။

၃။ ဆောင်ရွက်ရမည့်ဥပဒေသ

ဤအငှားစာချုပ်ဝင်များသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တရားဥပဒေများ၊လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများ၊ ညွှန်ကြားချက်များ၊ ကျင့်ထုံးများနှင့်အညီအငှားစာချုပ်ကြောင့်ဖြစ်ပေါ်လာသော ဆောင်ရွက်ရန် တာဝန်များ ကို အကောင်အထည်ဖော်ဆောင်ရွက်ရမည် ။

၄။ ငှားရမ်းသည့်အချိန်ကာလ

**နိုင်ငံတကာအဆင့်မီ မို နှင့် ဒိုင် ပုံစံအမျိုးမျိုးထုတ်လုပ်သည့်လုပ်ငန်းတည်ထောင်ရန် အတွက် ငှားရမ်းမည့်** ကာလမှာကနဦး(၁၀)နှစ် ဖြစ်ပြီး ငှားရမ်းကာလမှာသဘောတူစာချုပ် လက်မှတ် ရေးထိုးသည့် နေ့မှစတင်ရမည်။ ထိုသက်တမ်းကုန်ဆုံးပါက တစ်ကြိမ်လျှင် (၅) နှစ်ဖြင့် (၂) ကြိမ်သက်တမ်းတိုးမြှင့်နိုင်ရေး အတွက် အငှားချထားသူနှင့် အငှားချထား ခြင်းခံရသူ နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူ ခွင့်ပြုချက်နှင့်အညီ ဆက်လက်ငှားရမ်းမည်ဖြစ်ပါသည်။

၅။ ငှားရမ်းခ

ငှားရမ်းခနှုန်းများကိုအောက်ပါအတိုင်းပေးချေရမည်။

(က) စက်ရုံတည်ထောင်ရန် အတွက် နှစ်စဉ်ငှားရမ်းခ အဖြစ်ကျပ်-၁,၈၀၀,၀၀၀/-ကို အငှားချထားခြင်း ခံရသူက အငှားချထားသူသို့ပေးချေရမည်။

(ခ) ငှားရမ်းခကိုသက်ဆိုင်ရာဘဏ္ဍာရေးနှစ်အတွင်း (၃)လ တစ်ကြိမ် အတွက်ယင်းသုံးလကုန်ဆုံးပြီးနောက် ပထမလ၏ (၁၀)ရက် အတွင်းပေးချေရမည်။

(ဂ) ငှားရမ်းခကို အစိုးရအဖွဲ့ ၏ညွှန်ကြားချက်အမှတ် ၃/၉၀ နှင့် အမှတ်၅/၉၃ တို့ နှင့် အညီ (၅) နှစ် တစ်ကြိမ် ငှားရမ်းခနှုန်းထားများကို ပြီးခဲ့သော (၅) နှစ် တာကာလ၏ ငှားရမ်းခနှုန်းထားများ ထက် ၁၅% ( တစ်ဆယ့်ငါးရာခိုင်နှုန်း ) ထက်မပိုစေပဲ ညှိနှိုင်းပြင်ဆင် သတ်မှတ်ခွင့်ရှိသည်။

၆။ အငှားစာချုပ်၏ အကျိုးသက်ရောက်မှုနှင့်ကာလ

(က) ဤအငှားစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူများ ဤစာချုပ်ပေါ်တွင်လက်မှတ် ရေးထိုးသည့်နေ့မှစ၍အကျိုးသက်ရောက်စေရမည် ။

(ခ) ငှားရမ်းခြင်းကာလကိုလုပ်ငန်းများပုံမှန်စတင်သည့်ရက် သို့မဟုတ် စာချုပ်လက်မှတ်ရေးထိုးပြီးသည့်နေ့ အနက် စောသည့်ရက်မှ စတင်ရေတွက်ရမည် ။

၇။ စာချုပ်သက်တမ်းတိုးခြင်း

စာချုပ်သက်တမ်းတိုးခြင်း နှင့် ပတ်သက်၍အောက်ပါအတိုင်း ဆောင်ရွက်နိုင်သည် -

(က) အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်း ကုန်ဆုံးပြီး နောက်ဆက်လက်ငှားရမ်းလိုပါက စာချုပ် သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး (၃)လကြိုတင်၍ငှားရမ်းလိုသည့် ကာလကိုဖော်ပြ၍ အငှားချထားသူ သို့တင်ပြရမည်။

(ခ) အငှားချထားသူက ဆက်လက်ငှားရမ်းလိုပါက ထပ်မံငှားရမ်းသည့်ကာလအတွက် ငှားရမ်းခနှုန်းထားနှင့် စာချုပ်စည်းကမ်းချက်များကို နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီချက်ကို ရယူပြီး ဆက်လက်ငှားရမ်းခွင့်ရှိစေရမည်။

(ဂ) စာချုပ်ပါ အငှားသက်တမ်း ကုန်ဆုံးပြီးနောက် နှစ်ဦးနှစ်ဖက်မှ ဆက်လက်ငှားရမ်းလိုခြင်း မရှိလျှင်အငှားချထားခြင်းခံရသူသည် မူလငှားရမ်းထားသည့် မြေနှင့်ဆောက်အဦတို့ကို မူလအခြေအနေအတိုင်း ကောင်းမွန်သောအနေအထားဖြင့် အငှားချထားသူသို့ပြန်လည်လွှဲပြောင်းပေးရပါမည်။

၈။ " အငှားချထားခြင်း ခံရသူ " ၏ တာဝန်များ

အငှားချထားခြင်း ခံရသူ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) " ငှားရမ်းခ "ကိုမြေခွန်မှအပအခြားသောလုပ်ငန်းနှင့် သက်ဆိုင်သည့် အဖွဲ့အစည်းများအားပေးဆောင်ရမည့် အခွန်အခများကို တာဝန်ယူရန်။

(ခ) အငှားချထားသည့် မြေနှင့် အဆောက်အဦများကိုသော်လည်းကောင်း၊တစ်စိတ်တစ်ပိုင်း သော်လည်းကောင်း နိုင်ငံသားများကိုဖြစ်စေ၊ နိုင်ငံခြားသားကိုဖြစ်စေ၊ ထပ်ဆင့်ငှားရမ်းခြင်း၊ ရောင်းချခြင်း၊လွှဲပြောင်းပေးခြင်း သို့မဟုတ် လွှဲအပ်ခြင်းတို့ကို မပြုလုပ်ရန်။

(ဂ) ငှားရမ်းထားသောမြေပေါ်တွင်နိုင်ငံတကာအဆင့်မီ **Mould & Die** ( မို နှင့် ဒိုင် ပုံစံအမျိုးမျိုး ) ထုတ်လုပ်သည့်စက်ရုံ လုပ်ငန်းတည်ထောင်လုပ်ကိုင်ရေးအတွက်သာအသုံးချရန်။

(ဃ) ငှားရမ်းသည့် မြေပေါ်တွင် နိုင်ငံတကာအဆင့်မီ **Mould & Die** ( မို နှင့် ဒိုင် ပုံစံအမျိုးမျိုး ) ထုတ်လုပ်သည့်စက်ရုံလုပ်ငန်းနှင့်သက်ဆိုင်သော ကိစ္စရပ်များပေါ်တွင်" အငှားချထားခြင်းခံရသူ " ၏ ဆောင်ရွက်ချက်များအားလုံးသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ၏ ဥပဒေများနှင့် အညီဖြစ်ကြောင်း တာဝန်ယူကတိပြုရန်။

(င) ရေဆိုးများမရှိစေရန် နှင့် စွန့်ပစ်စနစ်တည်ဆောက်အကောင်အထည်ဖော်ရေး နှင့် မြန်မာနိုင်ငံတော် ၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းကမ်းဥပဒေနှင့် ညွှန်ကြားချက်များနှင့်အညီ ဒေသအလိုက်ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်စေရေးတို့အတွက် အစီအမံများပြုလုပ်ရန်။

(စ) ဤအငှားသဘောတူစာချုပ်ကို စာချုပ်စာတမ်းများမှတ်ပုံတင် အက်ဥပဒေအရမှတ်ပုံတင်ရမည်။ အငှားသဘောတူ စာချုပ်ကိုမှတ်ပုံတင်ခြင်းဖြင့်ပေးဆောင်ရမည့်တံဆိပ်ခေါင်းခွန်ကိုအငှားချထားခြင်းခံရသူက ပေးဆောင်ရမည်။

(ဆ) ငှားရမ်းခများကိုသတ်မှတ်နှုန်းထားနှင့် သတ်မှတ်သောနည်းလမ်းများ အတိုင်းအတိအကျပေးချေရမည်။

( ဇ ) သက်ဆိုင်ရာအာဏာပိုင်များထံမှလိုအပ်သောခွင့်ပြုချက်များနှင့် စက်ရုံတည်ထောင်ရန်အသုံးချမှုများအား အငှားချထားခြင်းခံရသူထံ သို့လွှဲပြောင်းပေးအပ်ခြင်း အတွက် လိုအပ်သော ခွင့်ပြုချက်များရယူပေးရန်။

(ဈ ) **Mould & Die** ( မို နှင့် ဒိုင် ပုံစံအမျိုးမျိုး ) ထုတ်လုပ်သည့်စက်ရုံလုပ်ငန်းအရပ်ရပ်အားမြန်မာ့အာမခံလုပ်ငန်းဥပဒေ၊ နည်းဥပဒေနှင့်အညီအာမခံထားရှိရန်။

၉။ " အငှားချထားသူ " ၏ တာဝန်များ

အငှားချထားသူ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) " အငှားချထားခြင်းခံရသူ" သည် အငှားချထားသည့် ငှားရမ်းကာလအတွင်း အငှားချထား သော

ပစ္စည်းများကို အေးငြိမ်းချမ်းသာစွာ လက်ဝယ်ထားပိုင်ခွင့်ရှိစေရန် အတွက် "အငှားချထားသူ"ကသော်လည်းကောင်း၊ "အငှားစာချုပ်"ကို ကိုယ်စားပြုသူဟုတရားဝင်ဖော်ထုတ်နိုင်သူ ကသော်လည်းကောင်း၊ ဤ "အငှားစာချုပ်" အတည်ဖြစ်နေသည့် ကာလအတွင်း ဝင်ရောက် စွက်ဖက်ခြင်းသို့မဟုတ် မည့်သည့် ပုံစံ သဘာဝအရ မဆို အနှောင့်အယှက်ဖြစ်ခြင်းများမရှိစေရန်။

(ခ) မြေခွန်ကိုပေးဆောင်ရန် ။

၁၀။ " အငှားစာချုပ် " ရပ်စဲခြင်း

(က) ဤ" အငှားစာချုပ်"ကို အောက်ဖော်ပြပါ အခြေအနေ အဖြစ်အပျက် တစ်ရပ်ရပ် ဖြစ်ပေါ်ပါကရပ်စဲနိုင်သည်။

၁။ (က) လုပ်ငန်းတွင်ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း။

(ခ) အငှားသဘောတူ စာချုပ်ဝင် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များ ဆောင်ရွက်ရန်ပျက်ကွက်ခြင်း။

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုလုပ်နိုင်သော မလွှဲမရှောင်နိုင်သည့် ဖြစ်ရပ်များ (၆) လထက် ပိုမိုဖြစ်ပေါ်လာခြင်း။

(ဃ) သဘောတူစာချုပ်၏ မူလရည်မှန်းချက်များကိုအကောင်အထည်ဖော်နိုင်စွမ်း မရှိခြင်း။

(င)"အငှားချထားခြင်းခံရသူ"က မိုနှင့်ဒိုင် ပုံစံအမျိုးမျိုး ထုတ်လုပ်သည့်လုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း(၁၀) ပုဒ်မ ၃၉ နှင့် ၄၀ တို့ အရ ရပ်စဲလိုကြောင်း " မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြပြီး ကော်မရှင်၏သဘောတူညီချက် ရလျှင်လည်းကောင်း ။

(စ) " အငှားချထားခြင်းခံရသူ " သည် ဤ " အငှားစာချုပ် " ချုပ်ဆိုပြီးနောက် ၁၂ (တစ်ဆယ့်နှစ်) လ ကာလအတွင်း လုပ်ငန်းကိုစတင်မှုမပြုလျှင်သော်လည်းကောင်း ။

(ဆ) "အငှားချထားခြင်းခံရသူ" သည် ဤ အငှားစာချုပ်ပါ သဘောတူညီချက်များ ဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန် ပျက်ကွက်ခြင်းများအတွက်ခိုင်လုံသော အကြောင်းပြချက်များ မပြလျှင်သော်လည်းကောင်း။

၂။ သို့သော်ငြားလည်း အငှားချထားခြင်းခံရသူသည် ၄င်း၏ လုပ်ငန်းများ ဆက်လက်ဆောင်ရွက်နိုင်ရန် နှင့် ပြန်လည်တည်ထောင်မှုပြုလုပ်နိုင်ရန် အတွက် ဤသဘောတူစာချုပ်ပါ ၄င်း၏အခွင့်အရေးများကိုခြွင်းချက် အဖြစ် သတ်မှတ်ချက်များ နှင့်အညီ နှစ်ဦး နှစ်ဖက်တို့သည်ဤသဘောတူ စာချုပ်ကို ရပ်စဲလိုပါက ရပ်စဲလိုကြောင်းအကြောင်းကြားစာကိုအခြားတစ်ဖက်ထံသို့ (၃)လ ကြိုတင်၍ ပေးပို့အသိပေးရမည်။

၃။ ဤသို့သဘောတူစာချုပ်ရပ်စဲရာတွင်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူအတည်ပြုချက်ရရှိမှသာလျှင် စာချုပ်ရပ်စဲခွင့်ရှိသည်။

၁၁။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်

ဤ " အငှားစာချုပ် " ကို ဆောင်ရွက်ခြင်း နှင့် အကောင်အထည်ဖော်ခြင်းတို့အတွက် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအာဏာပိုင်အဖွဲ့အစည်းများထံမှလိုအပ်သည့်သဘောတူညီချက်နှင့်လုပ်ဆောင်ခွင့်ပြုချက်များရရှိပြီးမှုအပေါ်တွင်တည်ရှိပါသည်။

၁၂။ ဤ " စာချုပ် " သည် မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများ၊လုပ်ထုံးလုပ်နည်းများ၊ အမိန့်ညွှန်ကြားချက်များ နှင့် အညီသာဖြစ်စေရမည်။ ထို့အပြင် စာချုပ်နှင့် စပ်လျဉ်းသောကိစ္စ အရပ်ရပ်တွင် မြန်မာနိုင်ငံတရားရုံးများ၏ စီရင်ပိုင်ခွင့်ကို နာခံရမည်။

၁၃။ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ

အကယ်၍စာချုပ်ဝင် တစ်ဦးဦးက စာချုပ်ပါတာဝန်များ ဆောင်ရွက်ရန် သို့မဟုတ် အခြားတစ်ဦး၏ ဆောင်ရွက်မှုကို လက်ခံရန်ယာယီအားဖြင့် မစွမ်းဆောင်နိုင်သည့် အခြေအနေကိုသက်ရောက်စေသောလူတို့ မလွန်ဆန်နိုင်သည့် သဘာဝဘေးအန္တရာယ်များ သို့မဟုတ်မည်သည့်ဖက်ကမျှ ကြိုးစား အားထုတ်ဆောင်ရွက်မှုဖြင့်တားဆီးမရနိုင်သောဖြစ်ရပ်များကြောင့်တဖက်ဖက်မှ စာချုပ်ပါတာဝန်များကိုထမ်းဆောင်ရန် ပျက်ကွက် ပါက အဆိုပါ မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များပေါ်ပေါက်ကြောင်းကိုဖြစ်ပေါ်သည့်အချိန် မှ (၁၄) ရက်အတွင်း အခြား တစ်ဖက်သို့စာဖြင့်အကြောင်းကြားရမည်။အခြားတစ်ဖက်ကလည်းမလွန်ဆန်နိုင်သည့် ဖြစ်ရပ် ပေါ်ပေါက်ကြောင်း လက်ခံပါကစာချုပ်ချုပ်ဆိုသူ နှစ်ဦးနှစ်ဖက်စလုံးတွင် မည်သည့်တာဝန်မျှမရှိစေရ။မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ ပေါ်ပေါက်သည့်ကာလကို စာချုပ်သက်တမ်း ကာလမှ ထုတ်နှုတ်ရန် သဘောတူ ကြပါသည်။

မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ လျှော်လှုပ်ခြင်း ၊ သပိတ်မှောက်ခြင်း၊ ပိတ်ဆို့မှုများ၊သူပုန်ထခြင်း၊ အဓိကရုဏ်းဖြစ်ခြင်း၊ အရပ်ဖက်နှောက့်ယှက်ဖျက်ဆီးခြင်း၊ ပေါက်ကွဲမှုဖြစ်ခြင်း၊ မီးလောင်ခြင်း၊ရေကြီးခြင်း၊မုန်တိုင်းတိုက်ခတ်ခြင်းနှင့်အခြားအလားတူအကြောင်းများဖြစ်ပြီး၊စာချုပ်ဝင်၏ ထိုက်သင့်သောဂရုပြုမှု၊ ဖွဲ လုံ့လတို့ နှင့်ထိန်းချုပ်၍မရပဲ ကျော်လွှားရန် မစွမ်းနိုင်သော ဖြစ်ရပ်များကို ဆိုလိုပါသည်။

၁၄။ အနုညာတ စီရင်ဆုံးဖြတ်ခြင်း။

အကယ်၍အငှားသဘောတူစာချုပ်ပါအချက်အလက်များနှင့် ပတ်သက်ပြီးအကောင်အထည် ဖော်ဆောင်ရွက်ရာတွင်ဖြစ်စေ၊အဓိပ္ပါယ်လွဲမှားမှုကြောင့်ဖြစ်စေ အငြင်းပွားမှုများ ဖြစ်ပေါ်လာပါက သဘောတူ စာချုပ်တွင် လက်မှတ်ရေးထိုးထားသည့် ၊ နှစ်ဦးနှစ်ဖက်စလုံးမှ ညှိနှိုင်းဆွေးနွေးခြင်းဖြင့် အငြင်းပွားမှုများကို ပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက်အကျေအလည် ညှိနှိုင်းဆွေးနွေး၍ မရရှိပါက မြန်မာနိုင်ငံအတွင်း၌ နှစ်ဦးနှစ်ဖက်ခုံသမာဓိလူကြီး တစ်ဦးစီခန့်ထားပြီး ညှိနှိုင်းဆွေးနွေးနိုင်ခွင့်ရှိသည်။ နှစ်ဦးနှစ်ဖက်မှ တင်မြှောက်ထား သောခုံသမာဓိလူကြီးများမှအငြင်းပွားမှုများကိုပြေလည်အောင်ဖြေရှင်းပေးနိုင်ခြင်းမရှိခဲ့ပါကအဆိုပါခုံသမာဓိ လူကြီးများသဘောတူသောဒိုင်လူကြီး၏အဆုံးအဖြတ်ကိုနှစ်ဖက်စလုံးမှလက်ခံကြရမည်။၎င်းခုံသမာဓိလူကြီးများ၏ အဆုံးအဖြတ်မှာ အနုညာတစီရင်ဆုံးဖြတ်ခြင်း၊အက်ဥပဒေ (၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အက်ဥပဒေ အမှတ် ၄ ) အရဖြစ်ရပါသည်။ ခုံသမာဓိအဖွဲ့၏ ဖြေရှင်းဆုံးဖြတ်ရန် နေရာမှာ ရန်ကုန်မြို့၊ ပြည်ထောင်စု မြန်မာနိုင်ငံတွင် ဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ကုန်ကျစရိတ်များကို အမှုရှုံးသည်ဘက်မှကျခံ ပေးဆောင်ရမည်။

၁၅။ အကြောင်းကြားစာ

ဤအငှားစာချုပ် နှင့် ပတ်သက်၍ အကြောင်းကြားစာ နှင့် အခြားဆက်သွယ်မှုများအား အောက်ဖော်ပြပါ လိပ်စာများ အတိုင်းမြန်မာဘာသာဖြင့်ရေးသားပြီးလျှင် စာတိုက်မှ မှတ်ပုံတင်ချောစာ ဖြင့်ဖြစ်စေ သို့မဟုတ်

တဲလက်စ်ဖြင့်ဖြစ်စေ၊ နှစ်ဦးနှစ်ဖက် ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ ဆက်သွယ်ပေးပို့ရာတွင် သဘောတူစာချုပ်ချုပ်ဆိုစဉ်က လိပ်စာအတိုင်းသော်လည်းကောင်း ၊ တစ်ဖက်မှ အကြောင်းကြားလာသည့် အခြားလိပ်စာဖြင့်သော်လည်းကောင်း၊ ( ၁၄ ) ရက်အတွင်း ဆက်သွယ်ပေးပို့ရမည်။

လိပ်စာများမှာ -

( က ) - အငှားချထားသူ - (၁) အမည် - ဒေါက်တာဖေခင်
လိပ်စာ - အမှတ် (၁၀၉)၊ ဝေဇယန္တာလမ်း ၊
(၃)ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊
ရန်ကုန်မြို့။

( ခ ) - အငှားချထားခြင်းခံရသူ - (၁) အမည် - ဦးသိန်းငွေ
ဒါရိုက်တာ
မို နှင့် ဒိုင် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်။
**(Mould & Die Industry Co., Ltd )**
လိပ်စာ -မြေကွက်အမှတ်-၁၂၆၊ တွင်းသင်းတိုက်ဝန်
ဦးထွန်းညိုလမ်း၊စက်မှုဇုံအပိုင်း(၃)၊
မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊
ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။

ယခုကဲ့သို့ စာရွက်စာတမ်းများပေးပို့ဆက်သွယ်သည့်အခါတွင် ပေးပို့ခြင်းကိုလက်ခံရယူသည့်ဖက်မှ လက်ခံရရှိပြီးဖြစ်ကြောင်း၊အကြောင်းပြန်ကြားစာရရှိပြီးမှသာလျှင် ပေးပို့ခြင်းကိစ္စပြီးမြောက်ပြီး ဖြစ်သည်ဟု အတည်ပြုနိုင်သည်။ အကယ်၍ တစ်ဖက်မှ လိပ်စာအပြောင်းအလဲရှိပါကစာဖြင့်ရေးသားပြီး အကြောင်းကြားစာ ပေးပို့ရမည်။

၁၆။ ဓါတ်သတ္တုအရင်းအမြစ်များနှင့် ရတနာများ

ဤအငှားစာချုပ်အရအငှားချထားစဉ်ကာလအတွင်း မမျှော်လင့်ဘဲငှားရမ်းမြေမှထွက်ပေါ် ရရှိလာသော ဓါတ်သတ္တုအရင်းအမြစ်နှင့်ရတနာများသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရနှင့်သာ သက်ဆိုင်စေရမည် ဖြစ်ပြီး " အငှားချထားသူ "သည် သက်ဆိုင်ရာ မြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းများသို့ အကြောင်းကြား တင်ပြ လွှဲပြောင်းခွင့် ရှိစေရမည်။

၁၇။ စာချုပ်ကိုပြန်လည်ညှိနှိုင်းခြင်း

" အငှားစာချုပ် " တွင် မဖော်ပြမိခဲ့သော အချက်အလက် သို့မဟုတ် အခြေအနေ တစ်ရပ် ပေါ်ပေါက်ပြီး၊ စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက နှစ်ဦးနှစ်ဖက်တို့ ညှိနှိုင်းကြပြီး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ကိုရယူလျှက် စာချုပ်၏အချက်အလက်နှင့် သတ်မှတ်ချက်များကို လိုအပ်ချက်အရ ပြင်ဆင် ညှိနှိုင်းရန်နှင့် ပြင်ဆင်ချက်များသည် စာချုပ်ကြီး၏ အစိတ်အပိုင်းတစ်ခု အဖြစ်မှတ်ယူရမည်။

၁၈ ။ စာချုပ်ကိုပြန်လည်ညှိနှိုင်းခြင်း

ဤ "အငှားစာချုပ် " နှင့် အတူ ပူးတွဲဖေါ်ပြထားသော နောက်ဆက်တွဲများနှင့် မြေပုံများသည် ဤစာချုပ်၏အရေးကြီးသော အစိတ်အပိုင်းတစ်ရပ်အဖြစ် ပါဝင်စေရမည်။

၁၉ ။ ပတ်ဝန်းကျင်ကိုကာကွယ်ထိန်းသိမ်းခြင်း လုပ်ငန်းများဆောင်ရွက်ရာ၌ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရန် နိုင်ငံတကာအဆင့်မီ **Mould & Die** ( မို နှင့် ဒိုင်ပုံစံ မျိုးမျိုး ) ထုတ်လုပ်သည့်ကုမ္ပဏီလီမိတက်တွင် တာဝန်ရှိသည်။ ကုမ္ပဏီသည် လေ၊ ရေ၊ မြေ နှင့် ပတ်ဝန်းကျင် ကိုထိန်းသိမ်း၍ လိုအပ်သောဆောင်ရွက်မှုများစီမံခန့်ခွဲမှုများ ပြုလုပ်၍ သဘာဝ ပတ်ဝန်းကျင် ကို ကာကွယ်ပေးရမည်။

၂၀။အထွေထွေ

ဤအငှားစာချုပ်ပါ အချက်အလက်များကို သိရှိသဘောပေါက်နားလည်ပြီး ဖြစ်သည့်အလျောက် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် ဤစာချုပ်အထက်တွင်ဖေါ်ပြထားသည့်အတိုင်း အောက်ပါအသိသက်သေများ ရှေ့မှောက်တွင်လက်မှတ်ရေးထိုး ရိုက်နှိပ်ကြပါသည်။

| - အငှားချထားသူ - | - အငှားချထားခြင်းခံရသူ - |
|---|---|
| (၁) ဒေါက်တာဖေခင် | ဦးသိန်းငွေ<br>ဒါရိုက်တာ |
| ၁။ အမည် ဒေါက်တာဖေခင် | ၂။ အမည် ဦးသိန်းငွေ |
| မှတ်ပုံတင်အမှတ် ၁၂/ဗဟန(နိုင်)၁၀၈၀၈၂၅ | မှတ်ပုံတင်အမှတ် ၇/ပတန(နိုင်)၁၀၃၀၄၅၉ |
| နေရပ်လိပ်စာ အမှတ်-၁၀၉၊ ဝေဇယန္တာလမ်း၊ ၁၃ရပ်ကွက် တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့. | နေရပ်လိပ်စာ အမှတ်(၉၁၁)ပန်းခါလမ်း၊ ၁၁ရပ်ကွက် ဒဂုံမြို့သစ်မြောက်ပိုင်းမြို့နယ်၊ ရန်ကုန်မြို့. |

အသိသက်သေများ

| | |
|---|---|
| ၁။ အမည် ------------------ | ၂။ အမည် ------------------ |
| မှတ်ပုံတင်အမှတ် ------------------ | မှတ်ပုံတင်အမှတ် ------------------ |
| နေရပ်လိပ်စာ ------------------<br>------------------ | နေရပ်လိပ်စာ ------------------<br>------------------ |

# FAIR SUN COMPANY LIMITED

NO. 126, TWIN THIN TIKE WUN U TUN NYO STREET, 64 WARD,
SHWE PYI THAR INDUSTRIAL ZONE (3), SHWE PYI THAR TOWNSHIP, YANGON.
TEL : 709149, 610966, 202230 FAX : 610966 EXT : 105, 202230
E-MAIL : sinomya.fair.s@mptmail.net.mm, sinomya.sl@mptmail.net.mm

စာအမှတ် - FAIRSUN/M&D/2006/133
နေ့စွဲ 17 JAN 2006

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

**အကြောင်းအရာ။** ။မြေဂရံမိတ္တူနှင့်မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်ခြင်းအတွက် ကုန်အမှတ်တံဆိပ် တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။MIC ၏စာအမှတ်-ရက-၆(က)/မ-၉၇၂/၂၀၀၅(၉၂၅၀)(၁၂.၁၂.၂၀၀၅)

၁။ အထက်ရည်ညွှန်းပါ စာပါအပိုဒ်(ဂ)အရ တင်ပြရန် ဖော်ပြထားသော လုပ်ငန်းဆောင်ရွက်မည့် မြေနေရာနှင့် စပ်လျဉ်း၍ မြေဂရံ(မိတ္တူ)ကို ပူးတွဲတင်ပြအပ်ပါသည်။

၂။ အထက်ရည်ညွှန်းစာပါအပိုဒ်(စ) အရတင်ပြရန် ဖော်ပြထားသော မိုနှင့်ဒိုင်လုပ်ငန်းအမျိုးမျိုးထုတ်လုပ်ခြင်းအတွက် ကုန်အမှတ်တံဆိပ်ကို ပူးတွဲတင်ပြအပ်ပါသည်။

ပူးတွဲပါ (၁) မြေဂရံ(မိတ္တူ) (၃)စောင်
(၂) ကုန်အမှတ်တံဆိပ် (၁)စောင်

Managing Director
Fair Sun Co.,Ltd

မိတ္တူကို -
၁။ ရုံးလက်ခံ

SPECIAL ADHESIVE LABEL
TWO HUNDRED KYATS

SPECIAL ADHESIVE LABEL
TWO HUNDRED KYATS

SPECIAL ADHESIVE LABEL

၁-3 JAN 2001

# မြေငှားစာချုပ်

## မူရင်း

၂၀၀၁ ခုနှစ်၊ (မြေငှား) အမှတ်တွဲ အမှတ် [illegible] (မြေ) ၅၂/၂၀၀၀ အရ၊ ထုတ်ပေးသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟုရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့်စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် [illegible] မြို့နေ၊ ဦး [illegible] ၏၊ သား/သမီး ဖြစ်သော ဦး/ဒေါ် [illegible] အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/မဂတ(နိုင်)၀၈၀၈၂၅ (နောက်တွင် "အငှား စာချုပ်ရသူ" ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃ ၆၂ ခုနှစ်၊ ပြာသို လဆန်း/လပြည့်ကျော် ၁၀ ရက်နေ့၊ ခရစ် ၂၀၀၁ ခုနှစ်၊ ( ဇန်နဝါရီ လ ၅ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်-ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက-နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက် အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်-ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ တတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကွာရီ (Quarries) စသည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကိုနောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့် အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်-ချုပ်ဆိုသည့် ၅.၁.၂၀၀၁ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြား အတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၆ ခုနှစ် ဇန်နဝါရီ လ ၂ ရက်နေ့၌၊ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၂၀၁၈ ပြား - ( ကျပ်နှစ်ထောင့်တစ်ဆယ့်ရှစ် ) တိတိကို ဇန်နဝါရီလ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇန်နဝါရီလ ၁-ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁-ရက် နေ့တွင် လည်းကောင်း၊ ဇူလိုင်လ -၁ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇူလိုင်လ ၁-ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁-ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁-ရက်နေ့တွင်လည်းကောင်း ကြိုတင် ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယတဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့် ငါးနှစ်အတွက်အပိုဒ်၃-တွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကိုအငှားစာချုပ်ရသူက ပေးဆောင်ရမည်။

[illegible]

[illegible]

လည်းကောင်း၊ [illegible] နေထိုင်ခြင်းမပြုဘဲ ပေါ်တွင် [illegible]

သိရှိကြောင်းစိစစ်တွေ့ရှိပါက ဤစာချုပ်ကိုပယ်ဖျက်ပြီး [illegible] မြေကွက်နှင့် [illegible] မြေကွက်

ပေါ်တွင်တည်ရှိသော အဆောက်အအုံအားလုံးကို သိမ်းယူခွင့်ရှိသည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၁၆ )ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ( ၂ )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေး ဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေး ဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှ ခြောက်လ အတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို

[illegible]

ရန် ကုန် မြို့ တော်

အိုး အိမ် ပုံ စံ

အက်စ် - ၂၂

၆၅ ပြည့် ၁၇ မြို့နယ်၊ လူနေရပ်ကွက် -

တိုင်းရပ်ကွက်အမှတ် ၆၄ (စက်မှု) မှ မြေကွက်အမှတ် ၇၂၆ ၏ မြေပုံ -

၁ လက်မလျှင် ၁၀၀ ပေ စကေး




ရည် ညွှန်း ချက်

ဧရိယာ

စတုရန်းပေ ၈၁၃၇၀

ဧက ၁.၈၆၈

မြေတိုင်း (၄)

မြေတိုင်း (၃)

မြေတိုင်း (၂)

ဦးစီးအရာရှိ

မြေတိုင်းဌာနခွဲ

မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

# FAIR SUN COMPANY LIMITED

NO. 126, TWIN THIN TIKE WUN U TUN NYO STREET, 64 WARD,
SHWE PYI THAR INDUSTRIAL ZONE (3), SHWE PYI THAR TOWNSHIP, YANGON.
TEL : 709149, 610966, 202230 FAX : 610966 EXT : 105, 202230
E-MAIL : sinomya.fair.s@mptmail.net.mm, sinomya.sl@mptmail.net.mm

စာအမှတ် - FAIRSUN/M&D/2006/133
နေ့စွဲ - 17 JAN 2006

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ ။မြေဂရံမိတ္တူနှင့်မိုနှင့်ဒိုင်အမျိုးမျိုးထုတ်လုပ်ခြင်းအတွက် ကုန်အမှတ်တံဆိပ် တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။MIC ၏စာအမှတ် - ရက - ၆(က)/မ - ၉၇၂/၂၀၀၅(၉၂၅၀)(၁၂.၁၂.၂၀၀၅)

၁။ အထက်ရည်ညွှန်းပါ စာပါအပိုဒ်(ဂ)အရ တင်ပြရန် ဖော်ပြထားသော လုပ်ငန်းဆောင်ရွက်မည့် မြေနေရာနှင့် စပ်လျဉ်း၍ မြေဂရံ(မိတ္တူ)ကို ပူးတွဲတင်ပြအပ်ပါသည်။

၂။ အထက်ရည်ညွှန်းစာပါအပိုဒ်(စ) အရတင်ပြရန် ဖော်ပြထားသော မိုနှင့်ဒိုင်လုပ်ငန်းအမျိုးမျိုးထုတ်လုပ်ခြင်းအတွက် ကုန်အမှတ်တံဆိပ်ကို ပူးတွဲတင်ပြအပ်ပါသည်။

ပူးတွဲပါ (၁) မြေဂရံ(မိတ္တူ) (၃)စောင်
(၂) ကုန်အမှတ်တံဆိပ် (၁)စောင်

Managing Director
Fair Sun Co.,Ltd

# FAIR SUN COMPANY LIMITED

NO. 126, TWIN THIN TIKE WUN U TUN NYO STREET, 64 WARD,
SHWE PYI THAR INDUSTRIAL ZONE (3), SHWE PYI THAR TOWNSHIP, YANGON.
TEL : 709149, 610966, 202230 FAX : 610966 EXT : 105, 202230
E-MAIL : sinomya.fair.s@mptmail.net.mm, sinomya.sl@mptmail.net.mm

စာအမှတ် -FAIRSUN/M&D/2006/134
နေ့စွဲ - 17 JAN 2006

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ ။ပြည်ပမှကုန်ကြမ်း US$(3.6)သိန်းဖိုးဝယ်ယူရန်နှင့် စပ်လျဉ်း၍ဝယ်ယူမည့်နိုင်ငံနှင့် နိုင်ငံခြားငွေအထောက်အထားတင်ပြခြင်း။

ရည်ညွှန်းချက် ။ ။MIC ၏စာအမှတ်-ရက-၆(က)/မ-၉၇၂/၂၀၀၅(၉၂၅၀)(၁၂.၁၂.၂၀၀၅)

၁။ ရည်ညွှန်းပါအပိုဒ်(ဃ)အရ ပြည်ပမှကုန်ကြမ်းဝယ်ယူရာတွင်အဓိကအားဖြင့် ထိုင်ဝမ်(တရုတ်)နိုင်ငံမှ တင်သွင်းမည်ဖြစ်ပါသည်။ထို့အပြင်အောက်ပါနိုင်ငံများမှလည်း လိုအပ်သလို ဝယ်ယူအသုံးပြုမည်ဖြစ်ပါသည်။

(၁)ဂျပန်နိုင်ငံ

(၂)ကိုရီးယားနိုင်ငံ

(၃)တရုတ်ပြည်သူ့သမ္မတနိုင်ငံ

၂။ ထို့အပြင်နိုင်ငံခြားငွေအထောက်အထားနှင့်ပက်သက်၍လည်း ပူးတွဲပါ မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ်ရှိလက်ကျန်စာရင်းအား တင်ပြအပ်ပါသည်။

ပူးတွဲပါ - ဘဏ်လက်ကျန်ငွေစာရင်း(၂)စောင်

Managing Director
Fair Sun Co.,Ltd

မိတ္တူကို -
၁။ ရုံးလက်ခံ

STATEMENT OF ACCOUNT

** CONFIDENTIAL **

FAIR SUN CO., LTD
126, TWINTHINTIKE WUN U TUN NYO ST.
SHWE PYI THAR INDUSTRIAL ZONE 3.
SHWE PYI THAR T-S

ACCOUNT NO : 98025
CURRENCY : USD
FROM : 01/01/2006
TO : 13/01/2006

| DATE | VALUE DATE | REFERENCE | DEBIT | CREDIT | BALANCE |
|---|---|---|---|---|---|
| | | | | | 10,496.50 |
| 01/01 | 01/01 | BALANCE FORWARDED | | | 10,496.50 |
| | | BALANCE FORWARDED | | 72,380.00 | |
| 13/01 | 13/01 | FR 98767 TO 98025 CIR-1 TR | | | 82,876.50 |
| | | BALANCE FORWARDED | | | |

ANY EXCEPTION OR ERROR SHOULD BE PROMPTLY ADVISED TO THIS OFFICE

16/1/06
Asst: Manager
Current Department
Myanma Foreign Trade Bank

# STATEMENT OF ACCOUNT

: CONFIDENTIAL **

| | |
|---|---|
| ?TR SUN INDUSTRY CO LTD | ACCOUNT NO : 97859 |
| ?6, TWINTHINTAIKWUN U TUN NYO ST, | CURRENCY : USD |
| -64, SHWE PYI THAR ZONE 3 | FROM : 01/01/2006 |
| | TO : 13/01/2006 |

| E | VALUE DATE | REFERENCE | DEBIT | CREDIT | BALANCE |
|---|---|---|---|---|---|
| '01 | 01/01 | BALANCE FORWARDED | | | 11,016.43 |
| | | BALANCE FORWARDED | | | 11,016.43 |
| '01 | 13/01 | FR 97859 TO MF 30 D HK PE 00172 CTR-1 | 135.63 | | |
| '01 | 13/01 | FR 98346 TO 97859 CTR-1 TR | | 43,400.00 | |
| | | BALANCE FORWARDED | | | 54,280.80 |

ANY EXCEPTION OR ERROR SHOULD BE PROMPTLY ADVISED TO THIS OFFICE

16/1/06
Asst: Manager
Current Department
Myanma Foreign Trade Bank

[illegible]

မြန်မာ့စီးပွားရေးဘဏ်(ရုံးချုပ်)

စက်မှုလုပ်ငန်းငွေချေးဌာန

MYANMA ECONOMIC BANK

ရန်ကုန်မြို့

ACCOUNTS DEPARTMENT

No. Dated, 13 JAN 2006

To.

[illegible]

Fair Sun Industry Co Ltd.

Yangon.

DEAR SIR,

We hereby certify that the balance standing at the credit of the account of F. 0043 with the Myanma Economic Bank I.F.D at the close of business on the 13.1.2006. was K40040987/50 (Kyat four hundred lakhs and forty thousand nine hundred and eighty seven/50 only.

Yours faithfully,

ထောက်စ ဓာ ဂါမန်နေဂျာ

မြန်မာ့စီးပွား... Manager(ရုံးချုပ်)

စသိမ္မလလည်မှုစစ္စရုံး

7 NOV 2005 K6

To,

Registrar,
Companies Registration Office,
Ministry of National Planning & Economic Development,
Yangon.

Dated. the 16 . 11 . 2005

Sir,

I hereby submit the following documents for Registration which are required under the Myanmar Companies Act

Should you need further information regarding documents, I am pleased to furnish them without any hesitation.

1. Memorandum of Association.
2. Articles of Association.
3. Declaration of registration.
4. Declaration of registered office.
5. Declaration of legal version.
6. Certificate of Translation
7. Company's main objects
8. List of directors
9. Undertaking.

Yours sincerely,

U THEIN NGWE
(Director)

MOULD & DIE INDUSTRY
COMPANY LIMITED.




FLOOR PLAN

| | |
|---|---|
| OWNER | u pe khin |
| PROJECT | proposed 1 storeyed steel building |
| BLOCK NO | 64 |
| LOT NO | 126 |
| | Thwe Pyi Tha Tsp: |
| SUBJECT | floor plan |
| SCALE | 1/16" = 1' |
| SHEET NO | |
| DATE | |

SHWE KYI
Senior Licensed Engineer
L S (403). Y C D C.
No. (309), Yankin Street,
Lay Daung Kan Block,
Thi Gan Gyun Township.




BACK ELEVATION




FRONT ELEVATION

| | | |
|---|---|---|
| OWNER | u pe khin | |
| PROJECT | proposed 1 storeyed steel building | |
| | BLOCK NO | 64 |
| | LOT NO | 126 |
| | shwe pyi tha | |
| SUBJECT | elevation | |
| SCALE | 1/16 1' | SHEET NO |
| DATE | | |

**SHWE KYI**
Senior Licensed Engineer
L S (B) Y C D C.
No. (309), Tankin Street,
Lay Daung Kan Block,
Tha Gan Gyun Township.




LEFT ELEVATION




RIGHT ELEVATION

| | | |
|---|---|---|
| OWNER | u pe khin | |
| PROJECT | proposed 1 storeyed steel building | |
| | BLOCK NO | 64 |
| | LOT NO | 126 |
| | shwe pyi tha | |
| SUBJECT | elevation. | |
| SCALE | 1/16"-1' | SHEET NO |
| DATE | | |

SHWE KYI
Senior Licensed Engineer
L S (403. Y C D C.
No. (309), Yankin Street,
Lay Daung Kan Block,
Thin Gan Gyun Township.

# Logo for Mould and Die Industry

☆ Quality ☆

☆ Precision ☆

Mould and Die Industry

MDI

YANGON

Fair Sun

MI (1)

G I roofing
2-3"x3"x1/4" angle flat top chord
2-3"x3"x1/4" angle flat bottom chord
2"x2"x1/4" 'C' channel purlin
2"x2"x1/4" angle flat stud & bracing




4"x4"x1/4" 'C' channel quartering
CI sheet walling
6"x4" I column
conc: floor
10"x12" rc column footing
9" brick r.wall

BUILDING SECTION-AA
scale 3/32"=1'-0"

2"x2"x1/4" angle flat stud

2-3"x3"x1/4" angle flat bottom chord

2-3"x3"x1/4" angle flat top chord
2"x2"x1/4" 'C' channel purlin




ROOF TRUSS
scale 3/8"=1'-0"

| | | |
|---|---|---|
| OWNER | | |
| PROJECT | proposed storeyed steel building | |
| | block no | 64 |
| | lot no | 126 |
| | shwe pyi tha | |
| SUBJECT | section | |
| SCALE | 15/16":1' | SHEET NO |
| DATE | | |

SHWE KYI
Senior Licensed Engineer
L S (40). Y C D C.
No. (309), Yankin Street,
Lay Daung Kan Block,
Thin Gan Gyan Township.




FOUNDATION PLAN

OWNER
u pe khin

| | | |
|---|---|---|
| PROJECT | proposed 1 storeyed steel building | |
| | BLOCK NO | 64 |
| | LOT NO | 126 |
| | shwe pyi tha | |
| SUBJECT | foundation plan | |
| SCALE | 1/16" : 1' | SHEET NO |
| DATE | | |

SHWE KYI
Senior Licensed Engineer
L S 1403. Y.C.D.C.
No. (399), Yankin Street,
Ley Daung Kan Block,
Thin Gan Gyun Township.




ROOF PLAN

| | |
|---|---|
| OWNER | u pe khin |
| PROJECT | proposed 1 storeyed steel building. |
| BLOCK NO | 64 |
| LOT NO | 126 |
| | shwe pyi tha |
| SUBJECT | roof plan. |
| SCALE | 1/16" = 1' |
| DATE | |
| SHEET NO | |

SHWE KYI
Senior Licensed Engineer
L S (403). Y C D C.
No. (305), Yankin Street,
Lay Daung Kan Block,
Thin Gan Gyun Township.




| | | |
|---|---|---|
| OWNER | u pe khin | |
| PROJECT | proposed 1 storeyed steel building | |
| | BLOCK NO | 64 |
| | LOT NO | 126 |
| | shwe pyi tha | |
| SUBJECT | rcc footing | |
| SCALE | 1/2" = 1' | SHEET NO |
| DATE | | |

SHWE KYI
Senior Licensed Engineer
L S 403. Y.C.D.C.
No. (309), Yankin Street,
Lay Daung Kan Block,
Thin Gan Gyun Township.




ROOF BEAM CONNECTION




BASE CONNECTION

| | |
|---|---|
| OWNER | u pe khin |
| PROJECT | proposed 1 storeyed steel building |
| BLOCK NO | 64 |
| LOT NO | 126 |
| | shwe pyi tha |
| SUBJECT | column connection |
| SCALE | 1/8" : 1' |
| SHEET NO | |
| DATE | |


SHWE KYI
Senior Licensed Engineer
L S (403). Y.C.D.C.
No. (309), Yankin Street,
Lay Daung Kan Block,
Thin Gan Gyun Township.




door window detail

| | |
|---|---|
| OWNER | u pe khin |
| PROJECT | proposed 1 storeyed steel building |
| BLOCK NO | 64 |
| LOT NO | 126 |
| | shwe pyi tha |
| SUBJECT | door window |
| SCALE | 3/8" = 1' |
| DATE- | |
| SHEET NO | |

SHWE KYI
Senior Licensed Engineer
L S (403). Y C D C
No. (309), Yankin Street,
Lay Daung Kan Block,
Thin Gan Gyun Township